ပုံစံ (၂)

# အဆိုပြုချက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊

ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ဖေဖော်ဝါရီ လ ၂၆ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

(က) အမည် ဦးအောင်မင်းဟန်

(ခ) အဖအမည် ဦးသက်လွင်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ၁၂/မဂတ(နိုင်)၀၇၄၄၂၉
နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား မြန်မာနိုင်ငံသား

(င) နေရပ်လိပ်စာ

(၁) ပြည်တွင်း အမှတ် (၄)၊ မြေညီထပ် (ဘီ)၊ မြမာလာလမ်း၊ (၃) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၂) ပြည်ပ

(စ) တယ်လီဖုန်း /ဖက်စ် ၀၁-၃၈၁၀၁၀ ၊ ၀၁-၃၈၁၀၆၆

(ဆ) အီးမေးလ်လိပ်စာ

(ဇ) ပင်မကုမ္ပဏီအမည် Ever Flow River Group of Companies (Public) Limited

(ဈ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ အမှတ်(၃၉)၊အလံပြဘုရားလမ်း၊ယူနိုက်တက်ကွန်ဒို(၁) စဗ္ဗာတ္တထပ်၊ယောမင်းကြီးရပ်ကွက်၊ဒဂုံမြို့နယ်၊ရန်ကုန်မြို့

(ည) လုပ်ငန်းအမျိုးအစား ထောက်ပံ့သယ်ယူပို့ဆောင်ရေး၊ ကုန်သေတ္တာ သိုလှောင်ရေးစခန်း နှင့် Bonded Warehouse လုပ်ငန်း

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါကရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့် သူများ၏ -

(က) အမည် ............................................................ -

(ခ) အဖအမည် ............................................................ -

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ ............................................................ -

နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား ............................................................ -

(င) နေရပ်လိပ်စာ ............................................................ -

(၁) ပြည်တွင်း ............................................................ -

(၂) ပြည်ပ ............................................................ -

(စ) ပင်မကုမ္ပဏီအမည် ............................................................ -

(ဆ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ ............................................................ -

မှတ်ချက်။ အထက်အပိုဒ် ၁၊ ၂ တို့နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ (မိတ္တူ)

(၂) နိုင်ငံသားစိစစ်ရေးကတ်အမှတ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး ဆိုင်ရာအထောက်အထားများ

၃။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါကလျှောက်ထားသူ၏ -

(က) အမည် ............................................................ -

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ............................................................ -

(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ............................................................ -

(ဃ) နိုင်ငံသား ............................................................ -

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့် -

နေရပ်လိပ်စာ -

(စ) တယ်လီဖုန်း /ဖက်စ် -

(ဆ) အီးမေးလ်လိပ်စာ -

၄။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား ထောက်ပံ့သယ်ယူပို့ဆောင်ရေး၊ ကုန်သေတ္တာသိုလှောင်ရေးစခန်း နှင့် Bonded Warehouse လုပ်ငန်း

၅။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်

☑ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း(ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း(စာချုပ်မူကြမ်းတင်ပြရန်)

၆။ အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု% |
|---|---|---|---|
| ၁ | လန်းပြီပင်လယ်ရေကြောင်း ကုမ္ပဏီလီမိတက် (ကိုယ်စားပြု) | မြန်မာနိုင်ငံသား | ၅၁% |
| ၂ | ထာဝရနန်ဒီအုပ်စု ကုမ္ပဏီများ အများနှင့်သက်ဆိုင်သော လီမိတက် (ကိုယ်စားပြု) | မြန်မာနိုင်ငံသား | ၄၉% |
| | | | |
| | | | |

၇။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း ၁၀၀,၀၀၀,၀၀၀,၀၀၀/- (ကျပ်သန်းတစ်သိန်းတိတိ)

(ခ) အစုရှယ်ယာအမျိုးအစား သာမာန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ တစ်စုလျှင် ကျပ် ၁၀,၀၀၀/- တန် (အစုရှယ်ယာပေါင်း ၁၀,၀၀၀,၀၀၀/-)

မှတ်ချက်။ သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲ တင်ပြရန်

၈။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ-

ကျပ်/US$(သန်းပေါင်း)

(က) ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း ........ ၆၂,၀၀၀.၀၀/- ကျပ်

(ခ) နိုင်ငံခြားမှ ယူဆောင်လာမည့် မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း ........ -

စုစုပေါင်း ........ ၆၂,၀၀၀.၀၀/- ကျပ်

(ဂ) အဆိုပြုမတည်ငွေရင်းနှစ်အလိုက်ထည့်ဝင်မည့်အခြေအနေ/ယူဆောင်လာမည့်ကာလ စီးပွားရေးဆိုင်ရာ တင်ပြချက် နောက်ဆက်တွဲ ဇယားအမှတ် ၁(ခ)

(ဃ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ ........ ၆၂,၀၀၀,၀၀၀,၀၀၀.၀၀/- ကျပ်

(င) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း ........ ကနဦး နှစ် ၅၀

(စ) ရင်းနှီးမြှုပ်မှုလုပ်ငန်းတည်ဆောက်မှုကာလသို့မဟုတ် ပြင်ဆင်မှုကာလ ........ ၃ နှစ်

မှတ်ချက်။ အပိုဒ် ၈(င) နှင့် စပ်လျဉ်း၍ ထူးခြားသည့် အခြေအနေရှိပါက နောက်ဆက်တွဲဖြင့် ဖော်ပြပါရန်

၉။ နိုင်ငံခြားမှ ယူဆောင်တင်သွင်းလာမည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | နိုင်ငံခြားငွေ (သန်းပေါင်း) | ညီမျှသည့်ခန့်မှန်းငွေကျပ် (သန်းပေါင်း) |
|---|---|---|
| (က) နိုင်ငံခြားငွေ (အမျိုးအစားနှင့် တန်ဖိုးပမာဏ) | ........ | ........ |
| (ခ) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ........ | ........ |
| (ဂ) ကနဦးကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူပစ္စည်းများ၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ........ | ........ |
| (ဃ) လိုင်စင်၊ တီထွင်မှုပိုင်ဆိုင်ခွင့်၊ စက်မှုဒီဇိုင်း၊ကုန်အမှတ်တံဆိပ်၊ မူပိုင်ခွင့် စသည့် အသိဉာဏ် | ........ | ........ |

ဆိုင်ရာပစ္စည်းများကိုတန်ဖိုး ဖြတ်နိုင်သောအခွင့်အရေးများ၏ တန်ဖိုးပမာဏ

(င) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ .................... ....................

(စ) အခြား (ဥပမာ-ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ) .................... ....................

**စုစုပေါင်း**

**မှတ်ချက်။** အပိုဒ် ၉ (ဃ) (င) တို့နှင့် စပ်လျဉ်း၍ အသုံးပြုခွင့်အထောက်အထားများ ပူးတွဲ တင်ပြရန်။

၁၀။ ပြည်တွင်းမှထည့်ဝင်မည့် မတည်ငွေရင်း၏ အသေးစိတ်စာရင်း-

| | မတည်ငွေ (ကျပ်သန်းပေါင်း) | နိုင်ငံခြားငွေ (US$) 1 US$ = 1,300 kyats | စုစုပေါင်း (ကျပ်သန်းပေါင်း) |
|---|---|---|---|
| (က) ငွေပမာဏ | ၄,၀၁၀.၈၈/- | | ၄,၀၁၀.၈၈/- |
| (ခ) စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | ၃.၁၆၇/- | ၄,၁၁၇.၅၀/- |
| (ဂ) မြေ/ အဆောက်အအုံ တန်ဖိုး သို့မဟုတ် ငှားရမ်းခ | ၃၀,၅၆၅.၀၄/- | | ၃၀,၅၆၅.၀၄/- |
| (ဃ) အဆောက်အအုံဆောက်လုပ်မှုကုန်ကျစရိတ် | ၂,၃၉၆.၉၇/- | | ၂,၃၉၆.၉၇/- |
| (င) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | ၄၆/- | | ၄၆/- |
| (စ) ကနဦးကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | | |
| (ဆ) အခြား | ၁၉,၈၆၂.၆၂/-/- | | ၁၉,၈၆၂.၆၂/- |
| **စုစုပေါင်း** | ၅၇,၈၈၂.၅၀/- | ၃.၁၆၇/- | ၆၂,၀၀၀.၀၀/- |

၁၁။ ချေးငွေနှင့်သက်ဆိုင်သည့် အချက်အလက်များ-

☐ ပြည်တွင်းချေးငွေ ............-............ ကျပ်

............-............ အမေရိကန်ဒေါ်လာ

☐ ပြည်ပချေးငွေ ........................ အမေရိကန်ဒေါ်လာ

၁၂။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ ရန်ကုန်တိုင်းဒေသကြီး၊ ယောအတွင်းဝန်ဦးဖိုးလှိုင်လမ်း၊ လှိုင်သာယာမြို့နယ်။

(ခ) မြေ သို့မဟုတ် မြေနှင့်အဆောက်အအုံနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက်

(၁) တည်နေရာ ........(၁၅/၁-B)၊ ရွှေလင်ပန်း စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်။........

(၂) မြေ/အဆောက်အအုံအကျယ်အဝန်း၊အရေအတွက် ၄၀ ဧက

(၃) လက်ရှိပိုင်ဆိုင်သူ........

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန ........ မြန်မာစီးပွားရေး ဦးပိုင်လီမိတက်

(ခခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်........

(ဂဂ) နေရပ်လိပ်စာ ........၁၅၅/၆၁ ကမ်းနားလမ်း ၊ ဆိပ်ကမ်းမြို့နယ်။

........

(၄) မြေအမျိုးအစား ........ ဂရန်မြေ

(၅) မြေငှားဂရန် ခွင့်ပြုကာလ လျှောက်ထားဆဲ

(၆) ငှားရမ်းမည့်ကာလ ........ မှ ........ ထိ ( ၅၀ )နှစ်

(၇) ငှားရမ်းခနှုန်းထား........

(ကက) မြေ ........ ၁စတုရန်းမီတာကို ၁နှစ်လျှင် ၄၆,၈၀၀ ကျပ်

(ခခ) အဆောက်အအုံ........

(၈) ရပ်ကွက်........

(၉) မြို့နယ်........

(၁၀) ပြည်နယ်/တိုင်းဒေသကြီး........

(၁၁) ငှားရမ်းမည့်ပုဂ္ဂိုလ်........

(ကက) အမည်/ ကုမ္ပဏီအမည်/ဌာန Hlaing Inland Terminal and Logistics Co., Ltd

(ခခ) အဖအမည် ........

(ဂဂ) နိုင်ငံသား ........

(ဃဃ) နိုင်ငံကူးလက်မှတ်အမှတ်/ နိုင်ငံသားစိစစ်ရေးကတ်အမှတ် ........

(ငင) နေရပ်လိပ်စာ ...................................................................

(ဂ) ဆောက်လုပ်မည့်အဆောက်အအုံလိုအပ်ချက်

(၁) အဆောက်အအုံအမျိုးအစား/အရေအတွက် စီးပွားရေးဆိုင်ရာတင်ပြချက်များ နောက်ဆက်တွဲ ဇယား အမှတ် (၅)

(၂) အကျယ်အဝန်း စီးပွားရေးဆိုင်ရာတင်ပြချက်များ နောက်ဆက်တွဲ ဇယား အမှတ် (၂) နှင့် (၅)

(ဃ) နှစ်စဉ်ထုတ်လုပ်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု စီးပွားရေးဆိုင်ရာတင်ပြချက်များ နောက်ဆက်တွဲဇယားအမှတ် (၆)

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် ၂၀,၀၀၀ KVA

(စ) နှစ်စဉ် ရေလိုအပ်ချက် ဂါလံ ၂၅၅,၀၀၀ (တစ်နေ့ရေလိုအပ်ချက်ဂါလံ ၇၀၀)

မှတ်ချက်။ အပိုဒ်၁၂(ခ)နှင့်စပ်လျဉ်း၍အောက်ပါအချက်များပူးတွဲတင်ပြရန်-

(၁) မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထား(စက်မှုဇုန်မှ အပ)နှင့်မြေပုံ

(၂) မြေငှားစာချုပ်(မူကြမ်း)

၁၃။ ငွေကြေးပိုင်ဆိုင်မှုနှင့် ပတ်သက်၍ အသေးစိတ်ဖော်ပြချက်-

(က) အမည်/ ကုမ္ပဏီအမည် Hlaing Inland Terminal and Logistics Co., Ltd

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ...................................

(ဂ) ဘဏ်စာရင်းအမှတ် 20610320601199901 (KBZ Bank)

(မိခင်နိုင်ငံရှိဘဏ်ထောက်ခံချက် သို့မဟုတ် မိခင်ကုမ္ပဏီ၏စာရင်းစစ်ပြီးသည့် နှစ်ချုပ်စာရင်းပူးတွဲတင်ပြရန်)

၁၄။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းတွင် လိုအပ်မည့် ဝန်ထမ်းများစာရင်း

| စဉ် | အဆင့်အတန်း | မြန်မာနိုင်ငံသား | နိုင်ငံခြားသား | စုစုပေါင်း |
|---|---|---|---|---|
| (က) | အကြီးတန်းစီမံခန့်ခွဲမှု (မန်နေဂျာများ၊ အဆင့်မြင့်အရာရှိများ) | ၆ | | ၆ |
| (ခ) | အခြားအဆင့်စီမံခန့်ခွဲမှု (အကြီးတန်းစီမံခန့်ခွဲမှုမှအပ) | ၆ | | ၆ |
| (ဂ) | သက်မွေးဝမ်းကျောင်းပညာရှင်များ | ၄ | | ၄ |
| (ဃ) | နည်းပညာနှင့်ဆက်စပ်သည့်သက်မွေးပညာရှင် | ၄ | | |
| (င) | အကြံပေး | | | |
| (စ) | ကျွမ်းကျင်လုပ်သား | ၆၄ | | ၆၄ |
| (ဆ) | အခြေခံလုပ်သား | ၁၉ | | ၁၉ |
| | စုစုပေါင်း | ၁၀၃ | | ၁၀၃ |

မှတ်ချက်။ အောက်ဖော်ပြပါ ဖော်ပြချက်များပူးတွဲဖော်ပြရန်

(၁) လုပ်သားများ၏ လူမှုဖူလုံရေး၊သက်သာချောင်ချိမှုဆောင်ရွက်မည့် အစီအမံများ

(၂) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းပြုလုပ်မည့် အစီအမံများ

၁၅။ အဆိုပြုချက်နှင့်အတူအောက်ဖော်ပြပါ လျှောက်ထားလွှာများကိုတင်ပြလျှောက်ထားခြင်းရှိ/မရှိဖော်ပြရန်-

☐ မြေအသုံးပြုခွင့်လျှောက်ထားလွှာ

☐ အခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

၁၆။ အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်အား နောက်ဆက်တွဲဖြင့် ဖော်ပြရန်။

လျှောက်ထားသူလက်မှတ်

အမည် အောင်မင်းဟန်

ရာထူး မန်နေးဂျင်းဒါရိုက်တာ

ဌာန/ကုမ္ပဏီတံဆိပ် Hlaing Inland Terminal and Logistics Co., Ltd. No ........... Date ..........

ရက်စွဲ-၂၆ ရက် ဖေဖော်ဝါရီလ ၂၀၁၈ ခုနှစ်

## အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်(နည်းဥပဒေ ၃၈)

၁။ ရင်းနှီးမြှုပ်နှံမှုတွင် တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ အကျိုးစီးပွား သိသာထင်ရှားစွာ ပါဝင်သော အခြားပုဂ္ဂိုလ်များဖော်ပြရန်-

(က) ရင်းနှီးမြှုပ်နှံသူမှ ရရှိမည့် အမြတ်ငွေ ၏ ၁၀ % နှင့် အထက်ကို ပိုင်ဆိုင်ခွင့်ရှိသည့် သို့မဟုတ် ထိန်းချုပ်ခွင့်ရှိသည့် လုပ်ငန်း၏ -

(၁) အမည် ----- - -----

(၂) ဆက်သွယ်ရမည့်လိပ်စာ ----- - -----

(၃) မှတ်ပုံတင်အမှတ် ----- - -----

(တစ်ဦး ထက်ပိုပါက နောက်ဆက်တွဲဖြင့် ဖော်ပြရန်) — (စီးပွားရေးဆိုင်ရာတွက်ချက်မှု အသေးစိတ် နောက်ဆက်တွဲတွင် ဖော်ပြထားပါသည်)

(ခ) ခွင့်ပြုမည့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရာတွင်တိုက်ရိုက်ပါဝင်သည့် လက်အောက်ခံကုမ္ပဏီများရှိလျှင် အဆိုပါကုမ္ပဏီများ၏အမည်ကို ဖော်ပြရန်-

(၁) ----- - -----

(၂) ----- - -----

(၃) ----- - -----

၂။ ရင်းနှီးမြှုပ်နှံမှု၏ အဓိကတည်နေရာ သို့မဟုတ် တည်နေရာများ — (၁၅/၁-B)၊ယောအတွင်းဝန် ဦးဖိုးလှိုင်လမ်း၊ ရွှေလင်ပန်း စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်

၃။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းပြုလုပ်မည့်ကဏ္ဍနှင့် ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းများ ဖော်ပြချက် — ထောက်ပံ့သယ်ယူပို့ဆောင်ရေး ၊ ကုန်သေတ္တာ သိုလှောင်ရေးစခန်း နှင့် Bonded Warehouse လုပ်ငန်း

၄။ အဆိုပြုထားသော ရင်းနှီးမြှုပ်နှံမှုပမာဏ (မြန်မာကျပ် နှင့် အမေရိကန်ဒေါ်လာ တို့ဖြင့် ဖော်ပြရန်) — ၆၂,၀၀၀,၀၀၀,၀၀၀.၀၀/- ကျပ်

၅။ ရင်းနှီးမြှုပ်နှံမှု အကောင်အထည်ဖော်မည့် ခန့်မှန်းအချိန်ဇယား အပါအဝင် အစီအစဉ်ဖော်ပြချက်-

| | | |
|---|---|---|
| (က) | တည်ဆောက်ရေးကာလသို့မဟုတ် ပြင်ဆင်မှုကာလ(နှစ်၊လတို့ဖြင့်ဖော်ပြရန်) | ၃ နှစ် (MIC ခွင့်ပြုမိန့်ကျပြီး) |
| (ခ) | စီးပွားဖြစ်စတင်မည့်ကာလ (နှစ်၊လတို့ဖြင့်ဖော်ပြရန်) | MIC ခွင့်ပြုမိန့်ကျပြီး တည်ဆောက်ရေးကာလ အပြီး ၂လအတွင်း (၂၀၂၁ ခုနှစ် ဖေဖော်ဝါရီလ (ခန့်မှန်း)) |

၆။ ခန့်ထားမည့် အလုပ်သမားဦးရေ -

| | | |
|---|---|---|
| (က) | ပြည်တွင်း | ၁၀၃ ယောက် |
| (ခ) | ပြည်ပ (ပညာရှင်/ကျွမ်းကျင်သူ) | |

၇။ ပြည်ပမှ ပြည်တွင်းသို့ ယူဆောင်လာမည့် မတည် ရင်းနှီးမြှုပ်နှံမှုများတွင် ငွေသားဖြင့် ယူဆောင်မှုပမာဏ (Capital in-Cash)၊ ရင်းနှီးပစ္စည်း အဖြစ်ယူဆောင် လာမည့် ရင်းနှီးငွေပမာဏ (Capital in-Kinds) တို့အား တိကျစွာခွဲခြားသတ်မှတ် ဖော်ပြပေးရန်(မြန်မာကျပ် နှင့် အမေရိကန် ဒေါ်လာ တို့ဖြင့်ဖော်ပြရန်) -

| | | |
|---|---|---|
| (က) | ငွေသားဖြင့်ယူဆောင်မှုပမာဏ | ကျပ်သန်းပေါင်း ၅၇,၈၈၂.၅၀/- |
| (ခ) | ပစ္စည်းအဖြစ်ယူဆောင်လာမည့် ရင်းနှီးငွေပမာဏ | ကျပ်သန်းပေါင်း ၄,၁၁၇.၅၀/- |

**မှတ်ချက်။** ရင်းနှီးမြှုပ်နှံသူသည် ရင်းနှီးမြှုပ်နှံမှုနှင့် သက်ဆိုင်သော လျှို့ဝှက်ထိန်းသိမ်းရမည့် သတင်း အချက်အလက်များအား ထုတ်ပြန်ခြင်းမှ ရှောင်ကြဉ်ရန် ကော်မရှင်ထံ တင်ပြတောင်း ဆိုနိုင်သည်။

## ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှု ရှိပါကြောင်းအာမခံပါသည်။

ဤအဆိုပြုချက်တွင် ခွင့်ပြုမိန့်ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့် အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အဆိုပြုချက်ကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာ သဘောပေါက်နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာ မည်ဖြစ်ကြောင်းဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် ......... အောင်မင်းဟန် .........

ရာထူး ......... မန်းနေးဂျင်းဒါရိုက်တာ .........

ဌာန/ကုမ္ပဏီတံဆိပ် .........

Hlaing Inland Terminal and Logistics Co., Ltd.
No ..........
Date ..........

လန်းပြီ ပင်လယ်ရေကြောင်း ကုမ္ပဏီလီမိတက်
**LANN PYI MARINE COMPANY LIMITED**
NO.55/61, STRAND ROAD, SEIK KAN TOWNSHIP,
YANGON, REPUBLIC OF THE UNION OF MYANMAR.
Tel: 372879, 373013 Fax: (095-1) 373011 E-mail:lannpyi@lannpyimarine.com.mm, lannpyi@gmail.com

Reference No. လန်းပြီ/အခရ ( ၆၉ /၂၀၁၈) Date: ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၂၆ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ထောက်ပံ့သယ်ယူပို့ဆောင်ရေး နှင့် ကုန်သေတ္တာသိုလှောင်ရေးလုပ်ငန်း (Inland Terminal & Logistic Centre) ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း**

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏ ရာနူန်းပြည့်ထောက်မထားသော လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက် နှင့် Ever Flow River Group of Companies (Public) Limited တို့အကျိုးတူပူးပေါင်း၍ ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ် ရွှေလင်ပန်းစက်မှုဇုန်ရှိ မြေကွက်အမှတ် (၁) မြေတိုင်းအမှတ်(၁၅) တွင် နိုင်ငံတကာအဆင့်မီ ထောက်ပံ့သယ်ယူပို့ဆောင်ရေး နှင့် ကုန်သေတ္တာသိုလှောင်ရေးလုပ်ငန်း ဆောင်ရွက်ရန် စီမံဆောင်ရွက်လျက်ရှိပါသည်။

၂။ အဆိုပါ စီမံကိန်းလုပ်ငန်းသည် နိုင်ငံတော်၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုနှင့် ရန်ကုန်တိုင်းဒေသကြီး ဖွံ့ဖြိုးတိုးတက်ရေးအတွက်များစွာအထောက်အကူပြုမည့် စီမံကိန်းလုပ်ငန်းဖြစ်သည်နှင့်အညီ ဒေသခံပြည်သူများအတွက်လည်း အလုပ်အကိုင်အခွင့်အလမ်းများ များစွာရရှိနိုင်မည်ဖြစ်ပါသည်။ ၎င်းအပြင် ကုန်သေတ္တာများအား ရေကြောင်းသယ်ယူပို့ဆောင်ရေးဆောင်ရွက်မည်ဖြစ်ပါသဖြင့် ရန်ကုန်တိုင်းအတွင်း ယာဉ်ကြောပိတ်ဆို့ရေးကိုလည်း

တစ်ဖက်တစ်လမ်းမှ ဖြေလျော့ပေးနိုင်သလို ကုန်စည်စီးဆင်းမှုမြန်ဆန်စေပြီး ၊ ကုန်ဈေးနှုန်းကျဆင်းစေနိုင်မည်ဖြစ်ပါသည်။

၃။ ယခုအခါ လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက်နှင့် Ever Flow River Group of Companies (Public) Limited တို့ အဆိုပါ စီမံကိန်းလုပ်ငန်းဆောင်ရွက်ရန် ဖက်စပ်သဘောတူစာချုပ် ချုပ်ဆိုခဲ့ပြီး ဖက်စပ်ကုမ္ပဏီအဖြစ် Hlaing Inland Terminal & Logistics Co.,Ltd ကိုလည်း ဖွဲ့စည်းခဲ့ပြီးဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ် ၊ ရွှေလင်ပန်းစက်မှုဇုန် မြေကွက်အမှတ် (၁) မြေတိုင်းအမှတ်(၁၅) ရှိ မြေဧက (၄၀) တွင် ထောက်ပံ့သယ်ယူပို့ဆောင်ရေး နှင့် ကုန်သေတ္တာသိုလှောင်ရေး လုပ်ငန်း (Inland Terminal & Logistic Centre) အား Hlaing Inland Terminal & Logistics Co.,Ltd အမည်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီလုပ်ကိုင်ခွင့်ပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

အောင်ကျော်ဦး
မန်နေဂျင်းဒါရိုက်တာ

မိတ္တူကို

Ever Flow River Group of Companies

ရုံးလက်ခံ

မျှောစာတွဲ

# လန်းပြိုင်လယ်ရေကြောင်းကုမ္ပဏီလီမိတက်

နှင့်

# EFR Group of Companies(Public) Limited

တို့အကြားချုပ်ဆိုသော

# နားလည်မှုစာချွန်လွှာ (MOU)

ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ ဇူလိုင်လ ( ၈ )ရက်

နေရာ ။ ။ ရန်ကုန်မြို့ ။

# နားလည်မှုစာချွန်လွှာ

ဤနားလည်မှုစာချွန်လွှာ(MOU)အား ၂၀၁၆ ခုနှစ်၊ ဇူလိုင်လ ( ၈ )ရက်နေ့တွင် နေပြည်တော် ၊ ပုဗ္ဗသီရိ မြို့နယ်၌

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏တည်ဆဲဥပဒေများအရ တရားဝင်ရပ်တည်လျက် လုပ်ငန်းများဆောင်ရွက်နေပြီး အမှတ် ၅၅/၆၁၊ ကမ်းနားလမ်း၊ ဆိပ်ကမ်းမြို့နယ်၊ ရန်ကုန်မြို့၊ မြန်မာနိုင်ငံတွင် တရားဝင်မှတ်ပုံတင်ရုံးခန်းဖွင့်လှစ်ထားသော လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက်ကိုယ်စား ဥက္ကဋ္ဌဖြစ်သူဗိုလ်ချုပ်ဇာနည်ဝင်း၊ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ် - ၁၂/ဒဂန(နိုင်)၀၁၀၂၂၀ (နောင်တွင် "လန်းပြီ" ဟု ရည်ညွှန်းပါမည်။ ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်။) က တစ်ဖက်

နှင့်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏တည်ဆဲဥပဒေများအရ တရားဝင်ရပ်တည်လျက် လုပ်ငန်းများဆောင်ရွက်နေပြီး အမှတ် (၃၉) ၊ ယူနိုက်တက်ကွန်ဒို(၂)၊ အခန်း(၄၀၆)၊ ယောမင်းကြီးရပ်ကွက်၊ အလုံပြဘုရားလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့၊ မြန်မာနိုင်ငံတွင် တရားဝင်မှတ်ပုံတင်ရုံးခန်းဖွင့်လှစ်ထားသော EFR Group of Companies (public) Limited ၏ကိုယ်စား ဥက္ကဋ္ဌဖြစ်သူဦးကျော်လွင်ဦး၊ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ် - ၁၂/ကမရ(နိုင်)၀၀၉၂၂၂ (နောင်တွင် "EFR" ဟု ရည်ညွှန်းပါမည်။ ယင်းစကားရပ်တွင်၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်။) ကအခြားတစ်ဖက်တို့အကြားတွင် လက်မှတ်ရေးထိုးကြပါသည် -

လန်းပြီ နှင့် EFR တို့အားစုစည်း၍ "စာချုပ်ဝင်များ" ဟူ၍လည်းကောင်း၊ သီးခြားစီအား "စာချုပ်ဝင်" ဟူ၍လည်းကောင်း နောင်တွင်ရည်ညွှန်းပါမည်။

## ရည်ရွယ်ချက်

ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၅)၊ မြေကွက်အမှတ်(၁)၊ ရွှေလင်ပန်းစက်မှုဇုန် မြေအကျယ်အဝန်း (၁၅၀)ဧကခန့်ရှိသောမြေကွက်သည် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ကတရားဝင်ဝယ်ယူပိုင်ဆိုင်ထားသောမြေကွက်ဖြစ်ပါသည်။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်သည် အဆိုပါမြေကွက်ထဲမှ မြေဧရိယာ(၄၀)ဧက၊ (၁၇၄၂၄၀၀)စတုရန်းပေရှိသည့်မြေကွက်အား စီးပွားရေးလုပ်ငန်းများလုပ်ကိုင်ရန် အတွက်လန်းပြီသို့ မြေအသုံးချပိုင်ခွင့်နှင့် စီမံခန့်ခွဲပိုင်ခွင့်အခွင့်အရေးတို့ အပြည့်အဝပေးအပ်ထားခဲ့ပြီးဖြစ်သည်။

လန်းပြီ သည် EFR နှင့်ပူးပေါင်း၍ ဖက်စပ်ကုမ္ပဏီတည်ထောင်ပြီး ၎င်းစီမံခန့်ခွဲခွင့်ရရှိသော အထက်ဖော်ပြပါ မြေဧရိယာဧက(၄၀)ပေါ်တွင် ကုန်သေတ္တာဆိပ်ခံတံတား၊ ကုန်သေတ္တာထားသိုစခန်းတို့တည်ဆောက်ပြီးနောက် ကုန်ပစ္စည်းဗဟိုထောက်ပံ့ပို့ဆောင်ရေးလုပ်ငန်း ၊ ကုန်သေတ္တာများနှင့်ဆက်စပ်သည့် ဝန်ဆောင်မှုလုပ်ငန်း များဆောင်ရွက်ခြင်း၊ ရေကြောင်းမှကုန်သေတ္တာများသယ်ယူခြင်းလုပ်ငန်း၊ ပို့ကုန်ဖွံ့ဖြိုးတိုးတက်ရေးအတွက် တန်ဖိုးမြှင့်တင်ခြင်းလုပ်ငန်း (Export Value Added Services)၊ ကုန်းတွင်းဆိပ်လုပ်ငန်း စသည်တို့ကိုဆောင်ရွက်ရန် ဆန္ဒရှိပါသည်။

EFR သည် လန်းပြီမှစီမံခန့်ခွဲမှုရရှိထားသော မြေဧရိယာဧက(၄၀)ပေါ်တွင် ကုန်သေတ္တာဆိပ်ခံတံတား၊ ကုန်သေတ္တာထားသိုစခန်းတို့တည်ဆောက်ပြီးနောက် ကုန်ပစ္စည်းဗဟိုထောက်ပံ့ပို့ဆောင်ရေးလုပ်ငန်း ၊ ကုန်သေတ္တာများနှင့် ဆက်စပ်သည့်ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ခြင်း ၊ ရေကြောင်းမှကုန်သေတ္တာများသယ်ယူခြင်းလုပ်ငန်း၊ ပို့ကုန်ဖွံ့ဖြိုးတိုးတက်ရေးအတွက် တန်ဖိုးမြှင့်တင်ခြင်းလုပ်ငန်းနှင့် ကုန်းတွင်းဆိပ်လုပ်ငန်းများအား လန်းပြီနှင့်အတူအကျိုးတူပူးပေါင်းဆောင်ရွက်ရန် ဆန္ဒရှိပါသည်။

ထို့ကြောင့် စာချုပ်ဝင်များသည် လန်းပြီမှစီမံခန့်ခွဲမှုရရှိထားသော မြေဧရိယာဧက(၄၀)ပေါ်တွင် ကုန်သေတ္တာဆိပ်ခံတံတား၊ ကုန်သေတ္တာထားသိုစခန်းတို့တည်ဆောက်ပြီးနောက် ကုန်ပစ္စည်းဗဟိုထောက်ပံ့ ပို့ဆောင်ရေးလုပ်ငန်း၊ ကုန်သေတ္တာများနှင့် ဆက်စပ်သည့်ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေကြောင်းမှကုန်သေတ္တာများသယ်ယူခြင်းလုပ်ငန်း၊ ပို့ကုန်ဖွံ့ဖြိုးတိုးတက်ရေးအတွက် တန်ဖိုးမြှင့်တင်ခြင်းလုပ်ငန်းနှင့် ကုန်းတွင်းဆိပ်လုပ်ငန်းများအား ဆောင်ရွက်ရေးအတွက် အကျိုးတူဖက်စပ်ကုမ္ပဏီတည်ထောင်နိုင်ရန် အောက်ဖော်ပြပါစည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ကြရန်သဘောတူညီကြပါသည် -

**ရင်းနှီးမြှုပ်နှံမှု**

၁။ လန်းပြီနှင့် EFR တို့သည် ကုန်သေတ္တာဆိပ်ခံတံတား၊ ကုန်သေတ္တာထားသိုစခန်းတို့တည်ဆောက်ပြီးနောက် ကုန်ပစ္စည်းဗဟိုထောက်ပံ့ ပို့ဆောင်ရေးလုပ်ငန်း၊ ကုန်သေတ္တာများနှင့်ဆက်စပ်သည့်ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေကြောင်းမှကုန်သေတ္တာများသယ်ယူခြင်းလုပ်ငန်း၊ ပို့ကုန်ဖွံ့ဖြိုးတိုးတက်ရေးအတွက် တန်ဖိုးမြှင့်တင်ခြင်းလုပ်ငန်းနှင့် ကုန်းတွင်းဆိပ်လုပ်ငန်းများအားဆောင်ရွက်ရန်အတွက် ဖက်စပ်ကုမ္ပဏီတစ်ခုအား အမေရိကန်ဒေါ်လာ ၄၇ သန်းကို အောက်ပါအတိုင်းရင်းနှီးမြှုပ်နှံပြီး တည်ထောင်ကြမည်ဖြစ်ပါသည် -

(က) လန်းပြီသည် ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၅)၊ မြေကွက်အမှတ်(၁)၊ ရွှေလင်ပန်းစက်မှုဇုန်ရှိ မြေဧရိယာ(၄၀)ဧက၊ (၁၇၄၂၄၀၀)စတုရန်းပေရှိသည့်မြေကွက်အား EFR နှင့်ပူးတွဲတည်ထောင်မည့် ဖက်စပ်ကုမ္ပဏီသို့နှစ်(၅၀) တစ်ဆက်တစ်စပ်တည်းငှားရမ်းပြီး ငှားရမ်းခရရှိငွေ အမေရိကန်ဒေါ်လာ(၂၄)သန်းကို ဖက်စပ်ကုမ္ပဏီ၏ မတည်ရင်းနှီးမြှုပ်နှံမှုပမာဏ၏ ၅၁% အဖြစ် In-kind ထည့်ဝင်မည်ဖြစ်ပါသည်။

(ခ) EFR သည် ကုန်သေတ္တာဆိပ်ခံတံတား ၊ ကုန်သေတ္တာထားသိုစခန်းတို့တည်ဆောက်ပြီးနောက် ကုန်ပစ္စည်းဗဟိုထောက်ပံ့ပို့ဆောင်ရေးလုပ်ငန်း ၊ ကုန်သေတ္တာများနှင့်ဆက်စပ်သည့် ဝန်ဆောင်မှုလုပ်ငန်းများ၊ ရေကြောင်းမှကုန်သေတ္တာများသယ်ယူခြင်းလုပ်ငန်းတို့ဆောင်ရွက်နိုင်ရန် လိုအပ်သောငွေကြေးအရင်းအနှီးစိုက်ထုတ်ခြင်းနှင့် ယာဉ်နှင့်စက်ကိရိယာများဝယ်ယူဖြည့်တင်းခြင်းကို တာဝန်ယူမည့်အပြင် တည်ဆောက်ရေးအတွက်လိုအပ်သည့်ငွေကြေးအရင်းအနှီးနှင့် ကုန်ကျစရိတ်အားလုံးဖြစ်သည့် အမေရိကန်ဒေါ်လာ(၂၃)သန်းအား ဖက်စပ်ကုမ္ပဏီ၏မတည်ရင်းနှီးမြှုပ်နှံမှုပမာဏအား ၄၉% အဖြစ် ငွေသားဖြင့်ထည့်ဝင်ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။

**လန်းပြီ၏တာဝန်ဝတ္တရားများ**

၂။ (က) လန်းပြီသည် စီမံခန့်ခွဲခွင့်ရရှိထားသော မြေဧရိယာ(၄၀)ဧကပေါ်တွင် ဤနားလည်မှုစာချွန်လွှာပါ ရည်ရွယ်ချက်များအတိုင်း ကုန်းတွင်းကုန်သေတ္တာ စခန်း (ICD)၊ Dry Port၊ Logistic Centre လုပ်ငန်းများ၊ ရေကြောင်းမှကုန်သေတ္တာသယ်ယူပို့ဆောင်ရေးလုပ်ငန်းများကို အကောင်အထည် ဖော်လုပ်ကိုင်ဆောင်ရွက်ခွင့်ရရှိရေးအတွက် တည်ဆဲဥပဒေ ၊ နည်းဥပဒေများနှင့်အညီ ကူညီ ဆောင်ရွက်ရမည်။

(ခ) မြေအသုံးချပိုင်ခွင့် အခွင့်အရေးနှင့် စီမံပိုင်ခွင့်အခွင့်အရေးတို့ကို နှစ်(၅၀)ကာလအတွက် ဖက်စပ်ကုမ္ပဏီမှအနှောင့်အယှက်မရှိ အပြည့်အဝရရှိရန်ဆောင်ရွက်ရမည်။

(ဂ) ဖက်စပ်ကုမ္ပဏီဖွဲ့စည်းခြင်း ၊ လုပ်ငန်းဆောင်ရွက်ခြင်း ၊ ဈေးကွက်ရှာဖွေခြင်း၊ ဈေးကွက်မြှင့်တင် ခြင်း၊ စီမံခန့်ခွဲမှုပြုလုပ်ခြင်းတို့တွင် ကူညီဆောင်ရွက်ရမည်။

**EFR ၏တာဝန်ဝတ္တရားများ**

၃။ (က) ကုန်သေတ္တာဆိပ်ခံတံတား ၊ ကုန်သေတ္တာထားသိုစခန်းတို့ကိုတည်ဆောက်ခြင်း၊ ဇဟိုထောက်ပံ့ ပို့ဆောင်ရေးလုပ်ငန်း ၊ ကုန်သေတ္တာများနှင့် စပ်ဆက်သည့်လုပ်ငန်းများတို့ကို ငွေကြေးရင်းနှီး မြှုပ်နှံထည့်ဝင်ပြီးဆောင်ရွက်ရမည်။

(ခ) အဆိုပါလုပ်ငန်းများအတွက် လိုအပ်သည့် ယာဉ်နှင့် စက်ကိရိယာများဝယ်ယူခြင်း၊ ဖြည့်တင်းခြင်း တို့ကိုဆောင်ရွက်ရမည်။

(ဂ) စီးပွားဖြစ်လုပ်ငန်းစတင်သည့် ရက်မှစတင်ပြီး လုပ်ငန်းစီမံခန့်ခွဲခြင်း၊ ဝန်ဆောင်ခကောက်ခံ ရယူခြင်း၊ လုပ်ငန်းလည်ပတ်စေရန်နှင့် ဈေးကွက်ရှာဖွေခြင်း၊ ဈေးကွက်မြှင့်တင်ခြင်းကိစ္စတို့ကို ဖက်စပ်ကုမ္ပဏီမှအဆင်ပြေစွာဆောင်ရွက်နိုင်ရေးအတွက် ကူညီဆောင်ရွက်ရမည်။

(ဃ) လုပ်ငန်းတာဝန်များကိုဆောင်ရွက်ရာတွင် ပြည်တွင်းပြည်ပရှိငွေကြေးအင်အားတောင့်တင်းခိုင်မာ ပြီး စီမံကိန်းလုပ်ငန်းအတွေ့အကြုံရှိသည့်အဖွဲ့အစည်းများနှင့် ပူးပေါင်းဆောင်ရွက်ရမည်။

**လုပ်ငန်းတည်နေရာ**

၄။ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ်(၁၅)၊ မြေကွက်အမှတ်(၁)၊ ရွှေလင်ပန်းစက်မှုဇုန် မြေအကျယ်အဝန်း (၁၅၀)ဧကခန့်ရှိသော မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက်ပိုင် မြေကွက်ထဲမှလန်းပြီသို့ အသုံးချခွင့်နှင့်စီမံခန့်ခွဲခွင့်ပေးထားသော မြေဧရိယာ(၄၀)ဧက (၁၇၄၂၄၀၀)စတုရန်းပေရှိသည့်မြေကွက်ဖြစ်ပါသည်။

**စတင်အကျိုးသက်ရောက်မှုရှိသည့်နေ့ရက်နှင့်သက်တမ်း**

၅။ ဤနားလည်မှုစာချွန်လွှာသည် ဤနားလည်မှုစာချွန်လွှာအားလက်မှတ်ရေးထိုးသည့်နေ့မှစတင်၍ အကျိုးသက်ရောက်မှုရှိပြီး သက်တမ်းကာလမှာ စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍ တစ်ဆက်တစ်စပ်တည်း (၁၂)လဖြစ်သည်။

**နားလည်မှုစာချွန်လွှာ၏အကျိုးသက်ရောက်မှု**

၆။ ဤနားလည်မှုစာချွန်လွှာသည် စာချုပ်ဝင်တစ်ဦးနှင့်တစ်ဦးအပေါ်တွင်စည်းနှောင်မှုမရှိဘဲ ဤနားလည်မှုစာချွန်လွှာ၏ရည်ရွယ်ချက်များကို တည်ဆဲဥပဒေများနှင့်အညီအကောင်အထည်ဖော်နိုင်ရန် စာချုပ်ဝင်များအချင်းချင်း နှစ်ဦးသဘောတူရေးဆွဲထားသော ကတိကဝတ်များနှင့်စည်းကမ်းချက်များသာ ဖြစ်ပါသည်။

**အထွေထွေ**

၇။ စာချုပ်ဝင်များသည် ဤနားလည်မှုစာချွန်လွှာပါ ရည်ရွယ်ချက်များကိုအကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ကိုရယူ၍ လိုအပ်သည့်ဖက်စပ်ကုမ္ပဏီကို ဥပဒေနှင့်အညီဖွဲ့စည်းနိုင်ရန် ပူးပေါင်းဆောင်ရွက်ကြရမည်။

၈။ ဤနားလည်မှုစာချွန်လွှာပါ ရည်ရွယ်ချက်များကိုအကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်အတွက် အောက်ပါကိစ္စရပ်များကို စာချုပ်ဝင်များမှဆောင်ရွက်ကြရန် သဘောတူညီကြပါသည် -

(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြစဉ်ကာလအတွင်း လုပ်ငန်းကြိုတင်ပြင်ဆင်ခြင်း၊ အစပျိုးလုပ်ငန်းများအား EFR ကုမ္ပဏီဘက်မှစတင်ဆောင်ရွက်ရမည်။

(ခ) နားလည်မှုစာချွန်လွှာ အကျိုးသက်ရောက်နေစဉ်ကာလအတွင်း လုပ်ငန်းနှင့်ပတ်သက်၍ ကုန်ကျစရိတ်များအား သက်ဆိုင်ရာစာချုပ်ဝင်အသီးသီးမှကျခံသွားရမည်။

(ဂ) မည်သည့်စာချုပ်ဝင်တွင်မှ ဤ MOU ကို အဖွဲ့အစည်းတစ်ခုခုအောက်တွင်ထားရှိရန် လုပ်ပိုင်ခွင့်အာဏာမရှိစေရ။ (သို့မဟုတ်) ဤ MOU ပါ အခွင့်အရေးများနှင့်တာဝန်များကို အခြားတတိယပုဂ္ဂိုလ်တစ်ဦးဦးကို တာဝန်သတ်မှတ်ပေးခွင့်မရှိစေရ။ ဤ MOU အနေဖြင့် အခြားစာချုပ်ဝင်၏စာဖြင့်ကြိုတင်သဘောတူညီချက်မရှိဘဲ ဥပဒေကြောင်းအရအတင်းအဓမ္မတာဝန်ပေးခြင်း (သို့မဟုတ်) တာဝန်ပေးအပ်ခြင်းမရှိစေရ။ အခြားစာချုပ်ဝင်၏ စာဖြင့်ကြိုတင်သဘောတူညီချက်မရှိဘဲပြုလုပ်သည့် တာဝန်လွှဲအပ်မှုမှန်သမျှသည် တရားမဝင်ပျက်ပြယ်သည်။

(ဃ) ဤ MOU ပါရည်ရွယ်ချက်များအား စာချုပ်ဝင်နှစ်ဖက်မှ ဆက်လက်ညှိနှိုင်းဆောင်ရွက်နိုင်ခြင်းမရှိခဲ့ပါက စာပိုဒ် ၅ ပါ စတင်အကျိုးသက်ရောက်သည့် ရက်နေ့မှစ၍(၁၂)လပြည့်မြောက်သည့်နေ့ရက်တွင် ဤ MOU သည်အလိုအလျောက်ရပ်စဲပြီးဖြစ်သည်ဟု စာချုပ်ဝင်များမှသဘောတူညီကြပါသည်။

(င) သက်ဆိုင်ရာဥပဒေများနှင့် စည်းမျဉ်းစည်းကမ်းများအရ စာချုပ်ဝင်တစ်ဖက်စီသည် အတွင်းရေးကိစ္စရပ်များအား တင်းကျပ်စွာထိန်းသိမ်းရမည်။ ၎င်း၏ ဒါရိုက်တာများ၊ ဝန်ထမ်းများ၊ အေးဂျင့်များနှင့်/သို့မဟုတ် ကိုယ်စားလှယ်များအားသိရှိရန်လိုအပ်မှုအပေါ် အခြေခံစဉ်းစားချင့်ချိန်ထုတ်ဖော်ပြောဆိုခြင်းမှလွဲ၍ အခြားပုဂ္ဂိုလ်တစ်ဦးဦးအား အခြားစာချုပ်ဝင်၏စာဖြင့်ရေးသားထားသောသဘောတူညီချက်မရှိဘဲ ထုတ်ဖော်ပြောဆိုခြင်းမပြုရ။

ဤနားလည်မှုစာချွန်လွှာကို အထက်တွင်ဖော်ပြထားသည့်နေရာနှင့်နေ့ရက်တွင် စာချုပ်ဝင်များမှ တရားဝင်လွှဲအပ်ထားသောကိုယ်စားလှယ်များက မိမိတို့၏လွတ်လပ်သောသဘောဆန္ဒများနှင့်အညီ သက်သေများ ရှေ့မှောက်တွင်အတည်ပြုလက်မှတ်ရေးထိုးကြပါသည် -

လန်းပြည့်ပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက်
ကိုယ်စား

အမည် ။ ဗိုလ်ချုပ်ဇာနည်ဝင်း
နိုင်ငံသားအမှတ် ။ ၁၂/ဒဂန(နိုင်) ၀၁၀၂၂၀
ရာထူး ။ ဥက္ကဋ္ဌ
လန်းပြည့်ပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက်

**EFR Group Of Companies(public) Limited**
ကိုယ်စား

အမည် ။ ဦးကျော်လွင်ဦး
နိုင်ငံသားအမှတ် ။ ၁၂/ကမရ(နိုင်) ၀၀၉၂၂၂
ရာထူး ။ ဥက္ကဋ္ဌ
EFR Group Of Companies
(public) Limited

**အသိသက်သေများ**

အမည် ။ ဦးစိုးတင့်
နိုင်ငံသားအမှတ် ။ ၁၂/ဒဂန(နိုင်)၀၁၁၂၈၀
ရာထူး ။ မန်နေဂျင်းဒါရိုက်တာ
လန်းပြည့်ပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက်

အမည် ။ ဦးအောင်မင်းဟန်
နိုင်ငံသားအမှတ် ။ ၁၂/မဂတ(နိုင်)၀၇၄၄၂၉
ရာထူး ။ အမှုဆောင်အရာရှိချုပ်၊
EFR Group Of Companies
(public) Limited

# လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက်

နှင့်

# Ever Flow River Group of Companies (Public) Limited

တို့အကြား

# ကုန်သေတ္တာထားသိုစခန်းတည်ဆောက်လုပ်ကိုင်ခြင်း
# ကုန်သေတ္တာဆိပ်ခံတံတားနှင့်
# ဗဟိုထောက်ပံ့ပို့ဆောင်ရေးလုပ်ငန်း
# အကျိုးတူပူးပေါင်းဆောင်ရွက်မှု
# ဖက်စပ်သဘောတူစာချုပ်

ရက်စွဲ။ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ (     ) ရက်

# ဖက်စပ်သဘောတူစာချုပ်

ဤဖက်စပ်သဘောတူစာချုပ်ကို ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီ လ (၁၉) ရက်နေ့တွင် ဗိုလ်မှူးချုပ် ခင်မောင်သန်း (နိုင်ငံသား စိစစ်ရေးအမှတ်၊၁၀/မလမ (နိုင်) ၁၁၁၃၅၅)၊ ဥက္ကဋ္ဌ၊ ကိုယ်စားပြုသော ရန်ကုန်တိုင်း၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ် (၅၅/၆၁) တွင်တည်ရှိပြီး မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းထားသည့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏ ရာနှုန်းပြည့်ထောက်မထားသော လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက် (နောင်တွင် "လန်းပြီ" ဟု ရည်ညွှန်းသုံးနှုန်းဖော်ပြမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်းဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်) ကတစ်ဖက်

နှင့်

ဦးကျော်လွင်ဦး (နိုင်ငံသားစိစစ်ရေးအမှတ်၊ ၁၂/ကမရ (နိုင်) ၀၀၉၂၂၂)၊ ဥက္ကဋ္ဌ၊ EFR Group of Companies (Public) Limited ကိုယ်စားပြုသော ရန်ကုန်မြို့၊ ယောမင်းကြီးရပ်ကွက်၊ အလံပြဘုရားလမ်း၊ အမှတ် (၃၉)၊ ယူနိုက်တက်ကွန်ဒို (၂) တွင် တည်ရှိပြီး မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းထားသည့် EFR Group of Companies (Public) Limited (နောင်တွင် "EFR" ဟုရည်ညွှန်းသုံးနှုန်း ဖော်ပြမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်းဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်ဟု မှတ်ယူရမည်။) က အခြားတစ်ဖက်တို့သည် အောက်ဖော်ပြပါ စည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဘက်သဘောတူစာချုပ်ကို နေပြည်တော်မြို့တွင် ချုပ်ဆိုကြပါသည်။

၁။ အဓိပ္ပါယ်ဖွင့်ဆိုချက်များ

အောက်ပါစကားရပ်များသည် ဤစာချုပ်တွင် ရှေ့နောက်ဆန့်ကျင် ကွဲလွဲမှုမရှိလျှင် ဖော်ပြပါအတိုင်း အဓိပ္ပါယ်သက်ရောက်စေရမည်။

(က) "ဖက်စပ်ကုမ္ပဏီ" ဆိုသည်မှာ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ အစုရှယ်ယာဖြင့်ပေးရန် တာဝန်ကန့်သတ်လျက် လန်းပြီ နှင့် EFR တို့ အစုရှယ်ယာဝင်အဖြစ် ပါဝင်ဖွဲ့စည်းသော ဖက်စပ် ကုမ္ပဏီကိုဆိုလိုသည်။

(ခ) "သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်း" ဆိုသည်မှာ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ ရေးဆွဲထားသည့် သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းဖြစ်သည်။

(ဂ) "ဒါရိုက်တာအဖွဲ့" ဆိုသည်မှာ ဖက်စပ်ကုမ္ပဏီ၏ ဒါရိုက်တာများဖြင့် ဖွဲ့စည်းထားသော အဖွဲ့ဖြစ်သည်။

(ယ) "အစုရှယ်ယာရှင်" ဆိုသည်မှာ အခွင့်အာဏာ အပ်နှင်းခန့်ထားခြင်းခံရသော ပုဂ္ဂိုလ်များက ကိုယ်စားပြုသည့် "လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက်" နှင့် "EFR Group of Companies (Public) Limited" တို့ဖြစ်သည်။

(င) "စာချုပ်ဝင်" ဆိုသည်မှာ လန်းပြီ ပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက်နှင့် EFR Group of Companies (Public) Limited တို့ သီးခြားစီကို ခေါ်ဆိုပြီး "စာချုပ်ဝင်များ" ဆိုသည်မှာ လန်းပြီပင်လယ်ရေကြောင်း ကုမ္ပဏီလီမိတက်နှင့် EFR Group of Companies (Public) Limited တို့ကို စုပေါင်းခေါ်ဆိုခြင်းဖြစ်သည်။

(စ) "စီမံကိန်းလုပ်ငန်း" ဆိုသည်မှာ ဤစာချုပ်၏ စာပိုဒ် ၂ အဖြစ် ဖော်ပြထားသည့် ရည်ရွယ်ချက်ပါ လုပ်ငန်းများဖြစ်သည်။

၂။ ရည်ရွယ်ချက်

မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် က ပိုင်ဆိုင်သည့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်း စက်မှုဇုန်၊ ယောအတွင်းဝန်ဦးဖိုးလှိုင်လမ်းမြေတိုင်းအမှတ် (၁၅)၊ မြေကွက်အမှတ် (၁)၊မြေအကျယ်အဝန်း (၁၅၀) ဧကခန့်အနက်မှ လန်းပြီက စီမံခန့်ခွဲပိုင်ခွင့် အပြည့်အဝရထားသော အောင်ဇေယျတံတားနှင့် ရွှေပြည်သာ တံတားတို့အကြားရှိ လစ်လပ်မြေ ဧရိယာ ဧက (၄၀) ပေါ်တွင် ကုန်သေတ္တာဆိပ်ခံတံတား၊ ကုန်သေတ္တာ ထားသိုစခန်းတို့ တည်ဆောက်ပြီးနောက် ကုန်ပစ္စည်းထောက်ပံ့ပို့ဆောင်ရေး လုပ်ငန်း၊ ကုန်သေတ္တာနှင့် ဆက်စပ်သည့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခြင်း၊ ရေကြောင်းမှ ကုန်သေတ္တာများ သယ်ယူခြင်းလုပ်ငန်း၊ ပို့ကုန်ဖွံ့ဖြိုး တိုးတက်ရေးအတွက် တန်ဖိုး မြှင့်တင်ခြင်းလုပ်ငန်း ( Export Value Added Services)၊ ကုန်းတွင်းဆိပ် လုပ်ငန်း စသည်တို့ကို စာချုပ်ဝင်တို့သည် ဖက်စပ်ကုမ္ပဏီဖွဲ့စည်းပြီး ပူးပေါင်းဆောင်ရွက်ကြရန် ဖြစ်ပါသည်။

၃။ ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်းတည်ထောင်ခြင်း

(က) ဤစာချုပ်၏ ရည်ရွယ်ချက်ပါလုပ်ငန်းများ လုပ်ကိုင်ရန်အတွက် လန်းပြီနှင့် EFR တို့သည် Hlaing Inland Terminal & Logistics Co.,Ltd အမည်ရှိသော ဖက်စပ်ကုမ္ပဏီတစ်ခုကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့်အညီ ထူထောင်ကြပါမည်။

(ခ) ဖက်စပ်ကုမ္ပဏီကို လန်းပြီကိုယ်စားပြုသည့် အစုရှယ်ယာဝင်များက ရင်းနှီးမြှုပ်နှံမှုအချိုး (၅၁%) နှင့် EFR ကိုယ်စားပြုသည့် အစုရှယ်ယာဝင်များက ရင်းနှီးမြှုပ်နှံမှုအချိုး (၄၉%) ဖြင့် ထည့်ဝင်လုပ်ကိုင် ကြပါမည်။

(ဂ) ဖက်စပ်ကုမ္ပဏီ၏ မှတ်ပုံတင်လိပ်စာမှာ အမှတ် (၃၉)၊ ယူနိုက်တက်ကွန်ဒို (၁)၊ အလံပြဘုရားလမ်း၊ ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ဖြစ်ပါသည်။

(ဃ) ဖက်စပ်ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့ (BOD) တွင် လန်းပြီကိုယ်စားပြုဒါရိုက်တာ (၄) ဦး နှင့် EFR ကိုယ်စားပြု ဒါရိုက်တာ ( ၃ ) ဦးတို့ ပါဝင်ရမည်။

ကိုယ်စားပြုဒါရိုက်တာများမှာ -

လန်းပြီ၏ ကိုယ်စား - (၁) ဦးစိုးတင့် ၊ ၁၂/ဒဂန (နိုင်)ဂ၁၁၂၈ဂ

(၂) ဦးသက်တင်လှိုင် ၊ ၁၂/စခန (နိုင်) ဝ၂၂ဂ၃၉

(၃) ဦးကျော်တင့် ၊ ၁၂/ဒဂန (နိုင်) ဝဂ၃၇၄၂

(၄) ဦးအောင်ကျော်ဦး ၊ ၁၂/မဂဒ (နိုင်) ဝ၁ဂ၅၇၇

EFR ၏ကိုယ်စား - (၁) ဦးကျော်လွင်ဦး ၊၁၂/ကမရ (နိုင်) ဝဂ၉၂၂၂

(၂) ဦးအောင်မင်းဟန် ၊ ၁၂/မဂတ (နိုင်) ဝ၇၄၄၂၉

(၃) ဒေါ်ခင်ဆုံ ၊ ၁၂/လမန (နိုင်) ဝဂ၂ဂ၂၇

၄။ အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း

လန်းပြီနှင့် EFR တို့သည် ဤသဘောတူစာချုပ်အား မိမိတို့၏ လွတ်လပ်သော သဘောဆန္ဒအတိုင်း ဥပဒေနှင့် အညီ ချုပ်ဆိုရန် အခွင့်အာဏာရှိကြသူများဖြစ် ကြောင်း အာမခံပါသည်။

ဤဖက်စပ်သဘောတူစာချုပ်အား စာချုပ်ဝင်တို့ကိုယ်စား လက်မှတ် ရေးထိုးကြသူများ ကလည်း မိမိတို့ကို ဤဖက်စပ်သဘောတူစာချုပ်အား လက်မှတ်ရေးထိုးရန်အတွက် အခွင့်အာဏာပေးထားသောကြောင့် ကိုယ်စားပြုသူ များအဖြစ် လက်မှတ်ရေးထိုးခြင်းဖြစ်ကြောင်း အာမခံပါသည်။ ( လန်းပြီနှင့် EFR တို့က မိမိတို့ကုမ္ပဏီ အတွက် ကိုယ်စားပြုလက်မှတ်ရေးထိုးရန် အခွင့်အာဏာ ပေးထားသည့် ကုမ္ပဏီအသီးသီး၏ အစည်းအဝေးမှတ်တမ်း အသီးသီးကို ဤဖက်စပ်သဘောတူစာချုပ်၏ နောက်ဆက်တွဲ " က" အဖြစ် ပူးတွဲထားပါသည်။)

EFR သည် ဤစာချုပ်ပါလုပ်ငန်းများကို အကောင်အထည်ဖော်ရန် ငွေရေးကြေးရေး ကိစ္စကို တာဝန်ယူ နိုင်ကြောင်းအာမခံပါသည်။

လန်းပြီသည် အထက်စာပိုဒ် ၂ တွင်ဖော်ပြသည့် မြေဧရိယာ ဧက (၄၀) ကို အမည်ပေါက်ပိုင်ဆိုင်သူဖြစ်သည့် အဓိပတိလယ်ယာထွက်ကုန်ပစ္စည်းရောင်းဝယ်ရေးကုမ္ပဏီက လန်းပြီအား စီမံခန့်ခွဲပိုင်ခွင့်နှင့် မြေအသုံးချခွင့်အခွင့် အရေးကိုအပြီးအပိုင် လွှဲပြောင်းပေးထားပြီးဖြစ်ကြောင်း သို့ဖြစ်၍ လန်းပြီသည် အဆိုပါ မြေဧရိယာ ဧက (၄၀) ၏ စီမံခန့်ခွဲပိုင်ခွင့်နှင့် မြေအသုံးချခွင့်အခွင့်အရေးကို ဖက်စပ်ကုမ္ပဏီတွင် ရင်းနှီးမြှုပ်နှံသည့် in kind အဖြစ် ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်းတည်ထောင်သည့်နေ့မှ နှစ် (၅၀) အထိထည့်ဝင်ခွင့်ရှိသူဖြစ်ကြောင်း အာမခံပါသည်။ (မြေကွက် ပိုင်ရှင်ဖြစ်သည့် အဓိပတိ လယ်ယာထွက်ကုန် ပစ္စည်းရောင်းဝယ်ရေး ကုမ္ပဏီက လန်းပြီအား မြေဧရိယာဧက (၄၀) ၏ စီမံခန့်ခွဲပိုင်ခွင့်နှင့် မြေအသုံးချခွင့် အခွင့်အရေး အပြည့်အဝကို လန်းပြီးအား အပြီးအပိုင်လွှဲပြောင်းပေးထားကြောင်း အစည်းအဝေးဆုံးဖြတ်ချက်နှင့် လွှဲပြောင်းပေးသည့်စာတို့ကို နောက်ဆက်တွဲ " ခ " အဖြစ် ပူးတွဲထားပါသည်။ )

၅။ ရင်းနှီးမတည်ငွေ ( Capital )

(က) Authorised Capital

ကုမ္ပဏီ၏ ခွင့်ပြုမတည်ငွေရင်း ကျပ် ၁၀၀,၀၀၀,၀၀၀,၀၀၀.၀၀ (ငွေကျပ် သန်းပေါင်း တစ်သိန်း) ဖြင့် သတ်မှတ်ရန်နှင့် အစုရှယ်ယာတစ်စု၏ တန်ဖိုးငွေကျပ် ၁၀၀၀၀ တန် အစုရှယ်ယာ အရေအတွက် (၁၀၀) သိန်း ထားရှိမည်ဟု သဘောတူကြပါသည်။

(ကက)ကုမ္ပဏီတွင် လန်းပြီက အထက်စာပိုဒ် ၂ ပါ မြေကွက်၏ စီမံခန့်ခွဲပိုင်ခွင့်နှင့် မြေအသုံးချခွင့်အခွင့်အရေးကို မတည်ရင်းနှီးမြှုပ်နှံမှု၏ ၅၁% အဖြစ်ထည့်ဝင်မည်ဖြစ်ပြီး၊ EFR သည် ငွေသားကို မတည်ရင်းနှီးမြှုပ်နှံမှု၏ ၄၉% ထည့်ဝင်ပါမည်။ ကုမ္ပဏီတွင် ရင်းနှီးမြှုပ်နှံမှုလိုအပ်သည့် အချိန်တိုင်း လန်းပြီက မြေစီမံခန့်ခွဲပိုင်ခွင့်နှင့် မြေအသုံးချ ခွင့်အခွင့်အရေးကို ၅၁% အချိုးဖြင့်လည်းကောင်း၊ EFR က ငွေသားကို ၄၉% အချိုး ဖြင့်လည်းကောင်း အသီးသီးထည့်ဝင်ကြပါမည်။

(ခ) Paid up Capital

ကုမ္ပဏီ၏ ကနဦးရင်းနှီးမတည်ငွေအဖြစ် ငွေကျပ် ၁,၀၀၀,၀၀၀,၀၀၀.၀၀ ( ငွေကျပ်သိန်း တစ်သောင်းတိတိ) ထည့်ဝင်မည်ဟုသတ်မှတ်ပြီး အစုရှယ်ယာပေါင်း ၁,၀၀၀,၀၀၀.၀၀ (တစ်သိန်း) စု ကိုအောက်ပါအတိုင်း ခွဲဝေကြပါမည်။

(၁) လန်းပြီ — အစုရှယ်ယာပေါင်း ၅၁၀၀၀ စု

ကျပ် ၅၁၀,၀၀၀,၀၀၀.၀၀ (ငွေကျပ် သိန်း ငါးထောင့်တစ်ရာတိတိ) (မြေကွက်၏ စီမံခန့်ခွဲ ပိုင်ခွင့် နှင့် မြေအသုံးချပိုင်ခွင့် အခွင့်အရေး in kind ကို ထည့်ဝင်ပါသည်။)

(၂) EFR — အစုရှယ်ယာပေါင်း ၄၉၀၀၀ စု

ကျပ် ၄၉၀,၀၀၀,၀၀၀.၀၀ (ငွေကျပ် သိန်း လေးထောင့်ကိုးရာ တိတိ)

၆။ အကျိုးအမြတ်ခွဲဝေခြင်း

(က) ပထမအဆင့် တည်ဆောက်ရေးလုပ်ငန်းများပြီးစီးပြီးနောက် စီးပွားဖြစ်လုပ်ငန်းများ ဆောင်ရွက်ချိန်တွင် အကျိုးအမြတ်ပေါ်ထွက်လာပါကရရှိသော အကျိုးအမြတ်ထဲမှ ၅၁% ကို လန်းပြီမှလည်းကောင်း၊ ၄၉% ကို EFR မှလည်းကောင်း ခွဲဝေယူရန် သဘောတူကြပါသည်။

(ခ) ခွဲဝေယူမည့်အကျိုးအမြတ်ကို တွက်ချက်ရာတွင် စီးပွားဖြစ်လုပ်ငန်းများ စတင်ချိန်မှ စ၍ ရရှိသည့် ဝင်ငွေထဲမှ လုပ်ငန်းလည်ပတ်မှု၊ ကုန်ကျစရိတ်အားလုံးနှင့် အခွန်အခအားလုံးနှုတ်ပြီး အသားတင် အကျိုးအမြတ်ထဲမှ ခွဲဝေယူကြပါမည်။

၇။ လုပ်ငန်းတာဝန်များ

(က) လန်းပြီ၏လုပ်ငန်းတာဝန်များ

(၁) လှိုင်သာယာမြို့နယ်၊ အောင်ဇေယျတံတားနှင့် ရွှေပြည်သာတံတားအကြားရှိ လစ်လပ်မြေ အကျယ်အဝန်း ဧက (၄၀) ခန့်ကို အထက်စာပိုဒ် ၂ ပါရည်ရွယ်ချက်အတိုင်း လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိရန်အတွက် သက်ဆိုင်ရာ

အစိုးရ အာဏာပိုင် အဖွဲ့အစည်း၊ ဝန်ကြီးဌာနအစရှိသည်တို့ထံမှ လိုအပ်သော ခွင့်ပြုမိန့်၊ သဘောတူညီချက်များ၊ လိုင်စင် များအစရှိသည်တို့ အပြည့်အစုံရရှိရန် တာဝန်ယူရမည်။

(၂) ဖက်စပ်ကုမ္ပဏီဖွဲ့စည်းတည်ထောင်နိုင်ရန်နှင့် လုပ်ငန်းဆောင်ရွက်နိုင်ရေးအတွက် စီမံကိန်း နှင့် ဘဏ္ဍာရေးဝန်ကြီးဌာန၊ ပို့ဆောင်ရေးဝန်ကြီးဌာန စသည့်သက်ဆိုင်ရာ ဝန်ကြီးဌာနများ၊ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့တို့မှလိုအပ်သော ခွင့်ပြုမိန့်၊ သဘောတူညီချက်များ၊ လိုင်စင်များရရှိနိုင်ရေး ဆောင်ရွက်ပေးရမည်။

(၃) ပြည်ပမှတင်သွင်းမည့် စက်နှင့်စက်ကိရိယာများ၊ ကုန်ကြမ်းပစ္စည်းများ စသည်တို့အတွက် လိုအပ်သည့်ခွင့်ပြုမိန့်များကို ရယူဆောင်ရွက်ပေးရမည်။

(၄) ဖက်စပ်ကုမ္ပဏီအတွက် လိုအပ်သော နိုင်ငံခြားသားဝန်ထမ်း၊ ကျွမ်းကျင်သူ ပညာရှင်များ၊ အလုပ်သမားများအတွက် ပြည်ဝင်ဗီဇာ၊ နေထိုင်ခွင့်နှင့် အလုပ်လုပ်ခွင့်များ ရရှိရေးအတွက် လိုအပ်သည်များကို ကူညီဆောင်ရွက် ပေးရမည်။

(၅) ဖက်စပ်ကုမ္ပဏီ၏ တည်ဆောက်ရေးလုပ်ငန်းအတွက် ငွေကြေးလိုအပ်ပါက EFR သည် ပြည်တွင်းပြည်ပရှိ မည်သည့်ဘဏ်မှမဆို ဖက်စပ်ကုမ္ပဏီ အမည်ဖြင့် ငွေချေးယူရာတွင် လန်းပြီသည် လိုအပ်သော မြေပိုင်ဆိုင်မှု အထောက်အထားကို ပံ့ပိုးပေးရမည်။

(ခ) EFR ၏ လုပ်ငန်းတာဝန်များ

(၁) ကုန်သေတ္တာဆိပ်ခံတံတား၊ ကုန်သေတ္တာထားသိုစခန်း တို့တည်ဆောက် ပြီးနောက် ကုန်ပစ္စည်း ထောက်ပံ့ပို့ဆောင်ရေးလုပ်ငန်း၊ ကုန်သေတ္တာများ နှင့် ဆက်စပ်သည့် ဝန်ဆောင်မှု လုပ်ငန်းများ၊ ရေကြောင်းမှ ကုန်သေတ္တာများ သယ်ယူခြင်းလုပ်ငန်းတို့ ဆောင်ရွက်နိုင်ရန် လိုအပ်သော ယာဉ် နှင့်စက်ကိရိယာများ ဝယ်ယူဖြည့်တင်းခြင်းကို ကျခံသုံးစွဲမည့်အပြင် တည်ဆောက်ရေးအတွက် လိုအပ်သည့် ငွေကြေးအရင်းအနှီးနှင့် ကုန်ကျစရိတ်အားလုံးကို ကျခံဆောင်ရွက်သွားပါမည်။

(၂) အထက်အပိုဒ် (၁) ပါ လုပ်ငန်းများ အဆင်ပြေလွယ်ကူချောမွေ့စွာ ဆောင်ရွက် အကောင် အထည်ဖော်နိုင်ရန်အတွက် ပြည်တွင်းပြည်ပမှ တရားဝင်ကုမ္ပဏီဖြစ်စေ၊ တရားဝင်အဖွဲ့ အစည်းဖြစ်စေ၊ ငွေကြေးအင်အား

တောင့်တင်းသော သို့မဟုတ် နည်းပညာပံ့ပိုးမှုပေးနိုင် သော မည်သည့်အဖွဲ့နှင့်မဆို ပူးပေါင်းဆောင်ရွက်သွားပါမည်။

(၃) တည်ဆောက်မှုလုပ်ငန်း ကိုလည်းကောင်း၊ စီးပွားဖြစ်လုပ်ငန်း ဆောင်ရွက်ရာတွင် လည်းကောင်း၊ ဂန်ဆောင်ခကောက်ခံရယူရာတွင် လည်းကောင်း၊ ဈေးကွက်ရှာဖွေခြင်း၊ တိုးချဲ့ ခြင်းတို့ ဆောင်ရွက်ရာတွင် လည်းကောင်း ဦးစီးဦးဆောင်ပြု၍ ဆောင်ရွက်သွားပါမည်။

၈။ ဒါရိုက်တာအဖွဲ့ (Board of Director) လုပ်ငန်းစီမံခန့်ခွဲမှု

ဒါရိုက်တာအဖွဲ့တွင် ဥက္ကဋ္ဌအဖြစ် လန်းပြီဘက်မှ ဒါရိုက်တာ ၁ ဦးက ဆောင်ရွက်မည်။ ဖက်စပ်ကုမ္ပဏီ၏ လုပ်ငန်းများကို စီမံခန့်ခွဲနိုင်ရန် မန်နေဂျင်းဒါရိုက်တာ ကို EFR မှရွေးချယ်သူကို ဒါရိုက်တာအဖွဲ့က ခန့်ထားရမည်။ မန်နေဂျင်းဒါရိုက်တာ ၏ တာဝန်ဝတ္တရားများကို ဒါရိုက်တာအဖွဲ့မှ သတ်မှတ်ပေးရမည်။ ဒါရိုက်တာအဖွဲ့သည် အောက်ဖော်ပြပါ ကိစ္စရပ်များကို ကြီးကြပ် ဆောင်ရွက်ရန် တာဝန်ရှိသည်။

(က) စီမံကိန်းလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်တွင် ရေထု၊ လေထု၊ မြေထုညစ်ညမ်းမှု၊ ပျက်ယွင်းမှုမရှိစေရန် ကြိုတင်ကာကွယ်ခြင်းနှင့် ထိန်းသိမ်းခြင်း၊

(ခ) စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် စီမံကိန်းနယ်မြေပတ်ဝန်းကျင်တွင် သာယာစိမ်းစိုပြေစေရန် နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်း၊ ရေးဆိုးထုတ်စနစ်ဖြင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်စေရန် ဆောင်ရွက်ခြင်း၊

(ဂ) မီးဘေးအန္တရာယ်မဖြစ်ပေါ်စေရေးအတွက် လုပ်ငန်းခွင်ရှိ အဆောက်အဦးများ အတွင်း၊ အပြင်နှင့် စက်လိုင်းများတွင် လျှပ်စစ်ဂါယာကြိုးများ စနစ်တကျ သွယ်တန်းအသုံးပြုခြင်း၊ လျှပ်စစ်ဂါယာကြိုး များအား အမြဲမပြတ် စစ်ဆေးခြင်း၊ မီးဘေး ကာကွယ်ရေးပစ္စည်းများ အဆင်သင့် ထားရှိခြင်းဖြင့် ကြိုတင် ကာကွယ်ခြင်း၊

၉။ ဒါရိုက်တာအဖွဲ့အစည်းအဝေးများ

(က) ဒါရိုက်တာအဖွဲ့ပုံမှန်အစည်းအဝေးကို အနည်းဆုံး တစ်လလျှင် တစ်ကြိမ် ကျင်းပရမည်။

(ခ) ဥက္ကဋ္ဌသည် အထူးကိစ္စရှိပါက အစည်းအဝေးခေါ်ယူခွင့်ရှိသည့်အပြင် အစုဝင်တစ်ဘက်ဘက်မှ ဒါရိုက်တာများသည်လည်း အထူးကိစ္စရှိပါက

အစည်းအဝေးခေါ်ယူပေးရန် တောင်းဆိုခွင့်ရှိပါသည်။ ထိုသို့တောင်းဆိုပါက ဒါရိုက်တာအဖွဲ့သည် ချက်ခြင်း ထိုအစည်းအဝေးကို ကျင်းပပေးရမည်။ ဒါရိုက်တာအဖွဲ့က ခေါ်ယူသည့် ဒါရိုက်တာအဖွဲ့အထူးအစည်းအဝေးကျင်းပရန် (၁၄) ရက်ကြိုတင် နို့တစ်စာ ပေးရမည်။ နို့တစ်စာတိုင်းတွင် အစည်းအဝေး ကျင်းပမည့် အကြောင်း အရာ၊ ဆွေးနွေးမည့်အကြောင်းအရာများနှင့် ပတ်သက်၍ သင့်လျော်သော အသေးစိတ် အချက် အလက်များကို ဖော်ပြရမည်။

(ဂ) ဒါရိုက်တာအဖွဲ့အစည်းအဝေးဖြစ်မြောက်ရန် လိုအပ်သောဦးရေသည် အနည်းဆုံး ဒါရိုက်တာ (၄) ဦးဖြစ်ပြီး အစုဝင်တစ်ဘက်စီမှ အနည်းဆုံး တစ်ဦး တက်ရောက်မှသာ အစည်းအဝေး အထမြောက် ပါမည်။

(ဃ) အစည်းအဝေးတိုင်းတွင် လန်းပြီမှ ဒါရိုက်တာ တစ်ဦးသည် ဥက္ကဋ္ဌ/သဘာပတိ အဖြစ် ဆောင်ရွက် ရမည်။ အစည်းအဝေးတက်ရောက်သော ဒါရိုက်တာများက လန်းပြီ၏ကိုယ်စားပြု ဒါရိုက်တာ တစ်ဦး ကို အစည်းအဝေး သဘာပတိအဖြစ် ရွေးချယ်ရမည်။

(င) ဒါရိုက်တာအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက်တိုင်းအတွက် တက်ရောက်လာသည့် ဒါရိုက်တာ အဖွဲ့ဝင်များအားလုံး ဒါရိုက်တာအားလုံး၏ တစ်ညီတစ်ညွတ်တည်းသော သဘောဆန္ဒမဲ ဖြင့်သာ ဆုံးဖြတ်ရမည်။

၁၈။ နှစ်ပတ်လည် အထွေထွေအစည်းအဝေး (Annual General Meeting)

နှစ်ပတ်လည်အထွေထွေအစည်းအဝေးကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့်အညီ ကုမ္ပဏီဖွဲ့စည်း တည်ထောင်သည့်နေ့မှ (၁၈) လ အတွင်းပြုလုပ်ရမည့်အပြင် ၄င်းနောက်တွင် နောက်ဆုံးအစည်းအဝေး ပြုလုပ်ပြီး နောက် (၁၅) လ ထက်မပိုစေဘဲ ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံး တစ်ကြိမ်ပြုလုပ်ရမည်။ နှစ်ပတ်လည် အထွေထွေအစည်းအဝေး ဖြစ်မြောက်ရန်အတွက် လိုအပ်သောဦးရေမှာ အစုရှယ်ယာရှင် (၂) ဦးကိုယ်တိုင် သို့မဟုတ် တရားဝင်စာဖြင့်ခန့်အပ်သော ကိုယ်စားလှယ် ( Proxy ) ဖြစ်သည်။ နှစ်ပတ်လည် အထွေထွေအစည်းအဝေးတွင် အောက်ပါလုပ်ငန်း ကိစ္စများကို ဆောင်ရွက်ရမည်။

(က) ဒါရိုက်တာအဖွဲ့၏ အစီရင်ခံစာ၊ နှစ်ချုပ်ဘဏ္ဍာရေးစာရင်းများနှင့် စာရင်းစစ်အစီရင်ခံစာ ကို အတည်ပြုခြင်း။

(ခ) အမြတ်ဝေစုများ ကြေငြာခြင်း နှင့် အမြတ်ဝေစု ထုတ်ပေးမည့်ရက် သတ်မှတ်ခြင်း။

(ဂ) ဒါရိုက်တာများနုတ်ထွက်ခြင်း၊ ပြန်လည်ခန့်ထားခြင်း၊ အသစ်ပြန်လည်ခန့်ထားခြင်း။

(ဃ) စာရင်းစစ်ခန့်ထားခြင်း။

(င) လာမည့်ဘဏ္ဍာရေးနှစ်အတွင်း ဆောင်ရွက်မည့် လုပ်ငန်းစီမံချက်များနှင့် အခြားကိစ္စများ။

၁၁။ အစုရှယ်ယာရှင်များ၏ အထူးအစည်းအဝေး

ဖက်စပ်ကုမ္ပဏီ၏ အရေးပေါ် အရေးတကြီး ကိစ္စများကို ဆုံးဖြတ်နိုင်ရန်အတွက် အစုရှယ်ယာရှင်များ၏ အထူးအစည်းအဝေးကို ဒါရိုက်တာအဖွဲ့၏ ဆုံးဖြတ်ချက်အရလည်းကောင်း၊ အစုရှယ်ယာ ၁၀ ပုံ ၁ ပုံထက် မနည်းသော အစုရှယ်ယာကို ပိုင်ဆိုင်သူ တစ်ဦးဦးက တောင်းဆိုလျှင်သော်လည်းကောင်း အစည်းအဝေးကျင်းပရန် ၂၁ ရက် အလိုတွင်အစည်းအဝေးကျင်းပမည့်ရက်သတ်မှတ်ပြီးအစည်းအဝေးခေါ် ယူနိုင်သည်။ အထူးအစည်းအဝေးဖြစ်မြောက်စေရန်အတွက် အစုဝင်တစ်ဘက်စီမှ ဒါရိုက်တာအဖွဲ့ဝင် အနည်းဆုံး (၁) ဦး တက်ရောက်ရမည်။

၁၂။ အစည်းအဝေးမှတ်တမ်းများ

ဖက်စပ်ကုမ္ပဏီ၏ သင်းလုံးကျွတ် အစည်းအဝေး၊ အစုရှယ်ယာဝင်များ၏ အထူးအစည်းအဝေး၊ ဒါရိုက်တာအဖွဲ့၏ ပုံမှန်အစည်းအဝေး၊ အထွေထွေအရပ်ရပ်အစည်းအဝေး အစရှိသည့် ဖက်စပ်ကုမ္ပဏီ၏ ဒါရိုက်တာများ သို့မဟုတ် အစုရှယ်ယာဝင်များဖြင့် ကျင်းပပြုလုပ်သည့် အစည်းအဝေးတိုင်း၏ ဆောင်ရွက်ချက် မှတ်တမ်းများကို ဖက်စပ်ကုမ္ပဏီ၏ ရုံးခန်းရှိ အစည်းအဝေးမှတ်တမ်းစာအုပ်တွင် စနစ်တကျ မှန်ကန်စွာ ရေးသွင်းပြီး မှတ်တမ်းပြုစုသူက လက်မှတ်ရေးထိုးထားရမည်။ အဆိုပါ အစည်းအဝေးမှတ်တမ်းများ၏ မိတ္တူကို ကုမ္ပဏီ၏ ဒါရိုက်တာ သို့မဟုတ် အစုရှယ်ယာဝင်တိုင်းသည် အခမဲ့တောင်းယူခွင့်ရှိသည်။

၁၃။ အစုရှယ်ယာလွှဲပြောင်းခြင်း နှင့် EFR ၏ Stock ဈေးကွက်တွင် ရောင်းချခွင့် အခွင့်အရေး

ဖက်စပ်ကုမ္ပဏီ၏အစုဝင်တစ်ဘက်ဘက်သည်ကျန်အစုဝင်တစ်ဘက်ကစာဖြင့်ရေးသားသဘောတူညီချက်မရဘဲ မိမိ၏ အစုရှယ်ယာအားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ အခြားသူကို လွှဲပြောင်းပေးခြင်း၊ ရောင်းချခြင်း မပြုလုပ်ရပါ။ အစုရှယ်ယာဝင်တစ်ဦးသည် မိမိ၏အစုရှယ်ယာကို ရောင်းချလိုပါက ကျန်အစုဝင်တစ်ဘက်ကို ကာလပေါက်ဈေးဖြင့် ဦးစားပေးရောင်းချရမည်။ အစုဝင်တစ်ဘက်ဘက်သည် မိမိတို့ဘက်မှ အစုရှယ်ယာအားလုံးကို ရောင်းချရန် ကျန်အစုဝင်တစ်ဘက်ကို အကြောင်းကြားပါလျှက်နှင့် မဝယ်ယူပါက

ရောင်းချလိုသော အစုဝင်တစ်ဘက် သည် အခြားသူကို လွှဲပြောင်းရောင်းချခွင့်ရှိသည်။ သို့ရာတွင် ဝယ်ယူမည့်သူကို ကျန်အစုဝင်ဘက်က သဘောတူ ရန်လိုပါသည်။ အစုဝင်တစ်ဘက်ဘက်သည် မိမိရှယ်ယာအားလုံးကို ရောင်းချမည်ဆိုယုံနှင့် အခြားတစ်ဘက်မှ အစုဝင်တို့၏ အစုရှယ်ယာများကို ရောင်းချရန် တိုက်တွန်းခွင့်မရှိပါ။

၁၄။ စာချုပ်သက်တမ်း

ဖက်စပ်သဘောတူစာချုပ်၏ သက်တမ်းသည် ကနဦးနှစ် (၅၀) ကာလအထိ အကျိုးသက်ရောက်မှုရှိပြီး ဤစာချုပ်၏ ရည်ရွယ်ချက်ပါလုပ်ငန်းကို ကနဦးနှစ် (၅၀) ကာလထက် ကျော်လွန်ပြီး သက်တမ်းတိုးမြှင့် ဆောင်ရွက် ရန် သဘောတူပါက နောက်ထပ် အနှစ် ၂၀ ကာလ အထိ စာချုပ်သက်တမ်းတိုးမြှင့်ရန် သဘောတူ ကြပါသည်။

၁၅။ လုပ်ငန်းစတင်ဆောင်ရွက်ရန်ကာလ

ဤစာချုပ်ပါ တည်ဆောက်မှုလုပ်ငန်းများကို သက်ဆိုင်ရာ အစိုးရအဖွဲ့၊ အာဏာပိုင် အဖွဲ့အစည်းတို့ထံမှ ဆောင်ရွက်ခွင့်စာရွက်စာတမ်းများ ပြည့်ပြည့်စုံစုံ ရရှိသောနေ့မှ (     ) လ အတွင်း စတင် ဆောင်ရွက်ရမည်။

၁၆။ လွှမ်းမိုးသည့်ဥပဒေ (Governing Law)

ဤဖက်စပ်သဘောတူစာချုပ် အပါအဝင် ဤစာချုပ်အရပေါ်ပေါက်သည့် အရပ်ရပ် တာဝန်အားလုံးသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများ၊ နည်းဥပဒေ၊ အမိန့်ကြော်ငြာစာနှင့် အကျုံးဝင်သက်ဆိုင် သည်။

၁၇။ စာရင်းများနှင့် စာရင်းစစ်ဆေးခြင်း

ဤစာချုပ်၏ ရည်ရွယ်ချက်ပါ တည်ဆောက်ရေးလုပ်ငန်းများ၊ ဝန်ဆောင်မှုလုပ်ငန်းများနှင့် ကျန်လုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် အသုံးပြုသော ငွေကြေးအရင်းအနှီး၊ ကုန်ကျစရိတ်၊ ပစ္စည်းစာရင်း အစရှိသည်တို့ကို ဖက်စပ်ကုမ္ပဏီက ခန့်ထားသော လက်မှတ်ရ စာရင်းကိုင်၊ စာရင်းစစ်များက ပုံမှန်ရေးသွင်းခြင်း၊ စစ်ဆေးခြင်းပြုလုပ်ရန် ဒါရိုက်တာအဖွဲ့က စာရင်းစစ် စာရင်းကိုင် ဝန်ထမ်းများကို ရွေးချယ်ခန့်ထားရမည်။ မြန်မာနိုင်ငံ စာရင်းကိုင်များ လိုက်နာရမည့် စံနှုန်းများနှင့်အညီ ရေးဆွဲထားသည့် အဆိုပါစာရင်းများကို ဒါရိုက်တာအဖွဲ့သည်

အခါအားလျော်စွာ စစ်ဆေးပြီး လက်မှတ်ရေးထိုးထားရမည်။ အဆိုပါ စာရင်းများကို အစုရှယ်ယာရှင်များ၏ နှစ်ပတ်လည် အစည်းအဝေးတွင် ရှင်းလင်းဖတ်ကြားပြီး အတည်ပြုချက်ရယူရမည်။

၁၈။ ဖက်စပ်ကုမ္ပဏီဖွဲ့စည်းခြင်း ကုန်ကျစရိတ်နှင့် အခွန်အခများ

ဤဖက်စပ် သဘောတူစာချုပ် အပါအဝင် ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်းခြင်းအတွက် ကုန်ကျစရိတ်၊ အကျိုးဆောင်ခ (Consultation Fees) စသည်တို့ကို စာချုပ်ဝင်တို့သည် အညီအမျှ ကျခံပေးချေကြပါမည်။ ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်းပြီး သည့်နောက်ပိုင်း ဖက်စပ်ကုမ္ပဏီက ဆောင်ရွက်သည့် စီမံကိန်းလုပ်ငန်းများ၊ ဝန်ဆောင်မှုလုပ်ငန်းများနှင့် တင်သွင်း သည့် ပစ္စည်းများအပေါ် အခွန်အကောက် စည်းကြပ်ပါက ဖက်စပ်ကုမ္ပဏီ၏ငွေစာရင်းမှ ပေးသွင်းရမည်။

၁၉။ အာမခံထားရှိခြင်း

ဖက်စပ်ကုမ္ပဏီပိုင်ပုံသေပစ္စည်းများ၊ ကုန်ပစ္စည်းများအတွက် လိုအပ်သည့် အာမခံများ ထားရှိရန်ကိစ္စ၊ ပရီမီယံပေးသွင်းရန်ကိစ္စနှင့် ဝန်ထမ်းများအတွက် အလုပ်ရှင်အနေနှင့် လူမှုဖူလုံရေး ရန်ပုံငွေထည့်ဝင်ပေးရန်ကိစ္စတို့ကို မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများနှင့်အညီ ဖက်စပ်ကုမ္ပဏီက ပေးသွင်းရမည်။

၂၀။ မလွန်ဆန်နိုင်သည့်ဖြစ်ရပ်ပေါ်ပေါက်ခြင်း

လန်းပြီ သို့မဟုတ် EFR သည် သဘာဝဘေးအန္တရာယ် ပေါ်ပေါက်ခြင်း၊ ရာသီဉတု ဆိုးရွားခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ ငလျင်ဘေး၊ လေမုန်တိုင်းကျရောက်ခြင်း၊ အစိုးရအာဏာပိုင်တို့က အတိအလင်း ခွင့်ပြု မိန့်များ ချပေးပြီးနောက်မှ စာဖြင့်ပြန်လည် ရုပ်သိမ်းခြင်း သို့မဟုတ် ဆက်လက်ဆောင်ရွက်ခြင်း မပြုရန် တားမြစ်ခြင်း၊ လူထုအုံကြွမှု၊ ဆန္ဒပြမှုတို့ ပေါ်ပေါက်ခြင်း အစရှိသည့် ကြိုတင်မမျှော်လင့်နိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သော ဖြစ်ရပ်တစ်ခုခု ပေါ်ပေါက်သည့် အကြောင်းကြောင့် မိမိတို့ ဆောင်ရွက်ရန် တာဝန်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် မဖြစ်နိုင်ခြင်း သို့မဟုတ် နှောင့်နှေးခြင်းတို့ ပေါ်ပေါက်ပါက ထိုအကြောင်းကို တစ်ဘက်မှ တစ်ဘက်သို့ စာဖြင့်အသိ ပေးပြီး ယာယီ ရပ်ဆိုင်းထားခွင့်ရှိသည်။ ယာယီရပ်ဆိုင်းသည့်ကာလ သတ်မှတ်ချက် ကုန်ဆုံးသည့်တိုင် စီမံကိန်းကို ဆက်လက်ဆောင်ရွက်ရန်မဖြစ်နိုင်ပါက နှစ်ဘက်သဘောတူညီချက်ဖြင့် တစ်ဘက်နှင့် တစ်ဘက် လျော်ကြေး မတောင်းခံဘဲ စာချုပ်ကို ရပ်စဲခွင့်ရှိသည်။

၂၁။ အငြင်းပွားမှု ဖြေရှင်းခြင်း

ဤဖက်စပ်သဘောတူစာချုပ်ပါအချက်အလက်များနှင့် ပတ်သက်ပြီး အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက် လာပါက စာချုပ်ဝင်နှစ်ဦးနှစ်ဘက်တို့သည် ဆွေးနွေးညှိနှိုင်းခြင်းဖြင့် အငြင်းပွားမှုကိုဦးစွာ ဖြေရှင်းရမည်။ ထိုသို့ ဦးစွာဖြေရှင်း ဆွေးနွေးညှိနှိုင်း၍ ပြေလည်မှုမရရှိပါက ၂၀၁၆ ခုနှစ် ပြည်ထောင်စုလွှတ်တော် ဥပဒေ အမှတ် ၅ ဖြစ် သည့် အနုညာတစီရင်ဆုံးဖြတ်ခြင်း ဥပဒေနှင့် အဆိုပါ ဥပဒေနှင့် သက်ဆိုင်သော နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ အနုညာတခုံရုံးမှ ဖြေရှင်းပေးရန်အတွက် ခုံသမာဓိလူကြီး တစ်ဦး စီကို စာချုပ်ဝင် တစ်ဘက်စီတို့က ရွေးချယ်ခန့်ထားရမည်။ ထိုသို့ခန့်ထားသည့် ခုံသမာဓိလူကြီး ၂ ဦး က သမာဓိလူကြီး ၁ ဦးကို ရွေးချယ်ပြီး အဆိုပါ ခုံသမာဓိလူကြီး ၃ ဦး ပါဝင်သည့် အနုညာတ ခုံရုံးသည် ၂၀၁၆ ခုနှစ် ပြည်ထောင်စုလွှတ်တော် ဥပဒေ အမှတ် ၅ ဖြစ် သည့် အနုညာတစီရင်ဆုံးဖြတ်ခြင်း ဥပဒေနှင့် အဆိုပါ ဥပဒေနှင့် သက်ဆိုင်သော နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ စီရင်ဆုံးဖြတ်ပေးရမည်။ အနုညာတခုံရုံး၏ ဆုံးဖြတ်ချက်သည် အငြင်းပွားသူ နှစ်ဘက်အပေါ် အပြီးသတ် အတည်ဖြစ်စေရမည်ဖြစ်ပြီး၊ အနုညာတ စီရင်ဆုံးဖြတ်ချက်ကို သက်ဆိုင်ရာ တရားရုံးက အတည်ပြု ဆောင်ရွက်ရန် တင်ပြခွင့်ရှိသည်။ အနုညာတခုံရုံး၏ ရုံးထိုင်ရာနေရာသည် ရန်ကုန်မြို့တွင်ဖြစ်ရမည်။ အမှုအတွက် ကုန်ကျစရိတ်ကို အမှုရှုံးသည့်ဘက်မှ ကျခံရမည်။

၂၂။ ဖက်စပ်သဘောတူစာချုပ်ရပ်စဲခြင်း

(၁) စာချုပ်ဝင်တို့သည် အောက်ဖော်ပြပါ အခြေအနေတစ်ရပ်ရပ်ဖြစ်ပေါ်လာပါက ဤဖက်စပ် သဘော တူစာချုပ်ကိုရပ်စဲခွင့်ရှိသည် -

(က) စာချုပ်ဝင်များက စီမံကိန်းလုပ်ငန်းကို အကောင်အထည်ဖော်ရန် အခက်အခဲရှိကြောင်း တွေ့ရှိပါက စာချုပ်ရပ်စဲရန် နှစ်ဘက်ဆွေးနွေးပြီး သဘောတူရပ်စဲခွင့်ရှိသည်။

(ခ) လုပ်ငန်းတွင် ကြီးမားစွာဆက်တိုက် အရှုံးပေါ်နေသည့်အခါ၊ နှစ်ဘက် သဘောတူ ရပ်စဲခွင့်ရှိသည်။

(ဂ) ဤစာချုပ်၏ စာပိုဒ် ၂၀ တွင် ဖော်ပြထားသည့် မလွန်ဆန်နိုင်သည့် ဖြစ်ရပ်တွင် အကျုံးဝင်သော ကြိုတင်မမျှော်လင့်နိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သော ဖြစ်ရပ်များ သည် (၆) လ ထက် မနည်း ဖြစ်ပေါ်သည့်အခါ၊ တစ်ဘက်နှင့်တစ်ဘက် (၁) လ ကြိုတင် နို့တစ်စာဖြင့် အကြောင်းကြားပြီး သဘောတူရပ်စဲခွင့်ရှိသည်။

(ဃ) ဖက်စပ်ကုမ္ပဏီဖျက်သိမ်းသည့်အခါ အလိုအလျောက်ရပ်စဲသည်။

(၂) အထက်ဖော်ပြပါ အကြောင်းအချက် တစ်ရပ်ရပ်ကြောင့် စာချုပ်ရပ်စဲပါက စာချုပ်ရပ်စဲ သည့်အချိန်အထိ တည်ဆောက်ထားသော မြေပေါ်ရှိ ရွှေ့ပြောင်းနိုင်သော ပစ္စည်းနှင့် မရွှေ့ပြောင်း နိုင်သော အဆောက်အဦး ၊ လမ်းတံတားများ၏ တန်ဖိုးအား ကျွမ်းကျင်သည့် ဆောက်လုပ်ရေး ပညာရှင်များ၊ လက်မှတ်ရ စာရင်းကိုင် စာရင်းစစ်များနှင့် တွက်ချက်ပြီး စာချုပ်ဝင်များမှ ၎င်းတို့ ထည့်ဝင်ထားသည့် ရှယ်ယာအချိုးအရ ခွဲဝေရယူရမည်။ ထိုသို့ခွဲဝေရယူရာ တွင် ရွှေ့ပြောင်း နိုင်သော ပစ္စည်းများအား တန်ဖိုးသင့်၍ EFR မှလွှဲပြောင်းရယူနိုင်ပြီး ထည့်ဝင်ထား သည့် ရှယ်ယာ အချိုးအရ တန်ဖိုးပမာဏမပြည့်မီပါက လိုအပ်သော တန်ဖိုးအား လန်းပြီမှ ပေးချေရန် သဘောတူ ညီကြပါသည်။

၂၃။ ဖက်စပ်သဘောတူစာချုပ်ဖျက်သိမ်းခြင်း

(က) စာချုပ်ဝင်တစ်ဘက်က ဤစာချုပ်တွင် သတ်မှတ်ထားသော ဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန်တာဝန်ကို မဆောင်ရွက်ဘဲ ပျက်ကွက်သည့်အတွက် ပျက်ကွက်သူ စာချုပ်ဝင်ကို ကျန်တစ်ဘက်က စာချုပ်ဖျက်သိမ်းမည့်အကြောင်း (၃)လ ကြိုတင် နို့တစ်စာပေးပြီး ဖျက်သိမ်း ခွင့်ရှိသည်။ ယင်းသို့ဖျက်သိမ်းပါက ဖျက်သိမ်းသည့် စာချုပ်ဝင်သည် မိမိ၏နစ်နာမှုအတွက် ကျန် စာချုပ်ဝင်ထံမှ ထိုက်သင့်သော နစ်နာကြေး လျော်ကြေးကို တောင်းခံခွင့်ရှိသည်။

(ခ) သက်ဆိုင်ရာအစိုးရအဖွဲ့ သို့မဟုတ် အာဏာပိုင်တို့က ဤဖက်စပ်သဘောတူ စာချုပ်တွင် ဖော်ပြ သည့် မြေနေရာပေါ်တွင် လုပ်ငန်းဆောင်ရွက်ခွင့်အား တားမြစ်ခြင်းပြုပါက စာချုပ်ဝင် နှစ်ဘက်တို့ သဘောတူညီချက်ဖြင့် EFR ၏ ရင်းနှီးမြှုပ်နှံမှုနှင့် စိုက်ထုတ်ထားသည့် ငွေကြေးကို ပြန်လည်ရရှိ စေရန်နှင့် နစ်နာမှုမရှိစေရန် ဆောင်ရွက်ပြီးမှ စာချုပ်ကို ဖျက်သိမ်းခွင့်ရှိပါသည်။

(ဂ) လုပ်ငန်းဆောင်ရွက်ရန်မြေနေရာပေါ်တွင် ဖက်စပ်ကုမ္ပဏီက စီမံကိန်းလုပ်ငန်း တည်ဆောက် လုပ်ကိုင်ရန် မြေအသုံးချခွင့် အခွင့်အရေးကို အပြည့်အဝ သုံးစွဲခွင့်ရှိရပါမည်။ ထိုအခွင့်အရေးကို လန်းပြီက တစ်နည်းနည်းဖြင့် ပြန်လည်ရုပ်သိမ်းပါက EFR ၏ နစ်နာမှုကို လန်းပြီက ပေးလျော်ပြီးမှ ဤဖက်စပ်သဘောတူ စာချုပ်ကို ဖျက်သိမ်းခွင့်ရှိပါသည်။

၂၄။ ဖက်စပ်ကုမ္ပဏီအား စာရင်းရှင်းလင်း ဖျက်သိမ်းခြင်း

ဤဖက်စပ် သဘောတူစာချုပ် ရပ်စဲသည့်အခါတွင်လည်းကောင်း၊ ဘဏ္ဍာရေးနစ်နာသည့်အခါ ကုမ္ပဏီရှိ ထည့်ဝင်ရင်းနှီးထားသော သုံးပုံ - နစ်ပုံထက်မနည်း ဆုံးရှုံးနေသဖြင့် စာချုပ်ဝင်တစ်ဦးဦးက ကုမ္ပဏီအားစာရင်း ရှင်းလင်းဖျက်သိမ်းပေးရန် တောင်းဆိုလာလျှင်လည်းကောင်း သက်ဆိုင်ရာ တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းနှင့်အညီ ကုမ္ပဏီအား စာရင်းရှင်းလင်းဖျက်သိမ်းရန် ဆောင်ရွက်ရမည်။

၂၅။ ဖက်စပ်သဘောတူစာချုပ်ပြင်ဆင်ခြင်း

ဤဖက်စပ်သဘောတူစာချုပ်အား စာချုပ်ဝင်နှစ်ဦးနှစ်ဖက် စာဖြင့်သဘောတူညီထားသည့် ပြင်ဆင်ချက်အရ ပြင်ဆင်ခြင်း (သို့မဟုတ်) ပြောင်းလဲခြင်း (သို့မဟုတ်)ဖြည့်စွက်ခြင်းပြုနိုင်သည်။ ယင်းပြင်ဆင်ပြောင်းလဲဖြည့်စွက်ချက် များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

၂၆။ ဆန့်ကျင်ကွဲလွဲခြင်း

ဤဖက်စပ် သဘောတူစာချုပ်ပါ စည်းကမ်းချက်များသည် ဖက်စပ်ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း၊ အစုရှယ်ယာရှင်များ၏ သဘောတူညီချက်ပါ စည်းကမ်းချက်များနှင့် ဆန့်ကျင် ကွဲလွဲနေပါက မြန်မာနိုင်ငံ ကုမ္ပဏီများဆိုင်ရာ အက်ဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ သတ်မှတ်ခွင့်ပြုထားသော အတိုင်းအတာအထိသာ ဤစာချုပ်ပါ စည်းကမ်းချက်များက လွှမ်းမိုးစေရမည်။

၂၇။ စာချုပ်၏နောက်ဆက်တွဲများ

ဤဖက်စပ် သဘောတူစာချုပ် (မူကြမ်း)၌ပါရှိသော နောက်ဆက်တွဲပုံစံများသည် ဤစာချုပ်၏ တစ်စိတ်တစ် ဒေသဖြစ်စေရမည်။

၂၈။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း နှင့် မီးဘေးကာကွယ်ခြင်း

ဖက်စပ်ကုမ္ပဏီသည် စီမံကိန်းလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်တွင် ရေထု ၊ လေထု ၊ မြေထုညစ်ညမ်းမှု ၊ ပျက်ယွင်းမှုများမရှိစေရန် ကြိုတင်ကာကွယ်ခြင်း နှင့် ထိန်းသိမ်းခြင်းတို့အတွက် တာဝန်ရှိရမည်။ ဖက်စပ်ကုမ္ပဏီသည် ပတ်ဝန်းကျင်အကာအကွယ်အဖြစ် ရေဆိုးထုတ်စနစ်နှင့်

အခြားနည်းလမ်းများဖြင့် စီမံကိန်းနယ်မြေပတ်ဝန်းကျင် သာယာစိုပြေနစ်လိုဖွယ် ဖြစ်စေရမည်။ ဖက်စပ်ကုမ္ပဏီ၏ ပေါ့ဆမှုကြောင့် မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရေးအတွက် အလုပ်ရုံ အတွင်း/အပြင် နှင့် စက်လိုင်းများတွင် လျှပ်စစ်ဂါယာကြိုးများ စနစ်တကျသွယ်တန်း အသုံးပြုခြင်း၊ လျှပ်စစ် ဂါယာကြိုးများအား အမြဲမပြတ်စစ်ဆေးခြင်း ၊ အလုပ်ရုံဝင်းအတွင်း နှင့် အလုပ်ရုံအတွင်း သန့်ရှင်းရေးအမြဲ ဆောင်ရွက် ခြင်း နှင့် မီးဘေးကာကွယ်ရေးပစ္စည်းများ အဆင်သင့်ထားရှိခြင်းများ ဆောင်ရွက်ရမည်။

၂၉။ လျှို့ဝှက်ကိစ္စနှင့် သတင်းမီဒီယာ

(က) ဤစာချုပ်ပါ စီမံကိန်းလုပ်ငန်းများသည် လျှို့ဝှက်ထိန်းသိမ်းရန်ကိစ္စများဖြစ်သဖြင့် လန်းပြီနှင့် EFR တို့က မိမိတို့၏ ကုမ္ပဏီအဖွဲ့အစည်းများမှ တာဝန်ရှိသူများ၊ တာဝန်ပေးအပ်ခြင်းခံရသူများ၊ တစ်ဆင့်အပ်နှံသော လုပ်ငန်းဆောင်ရွက်သူများ၊ ကန်ထရိုက်တာများ၊ ၎င်းတို့၏ ဝန်ထမ်းများက လျှို့ဝှက်စွာ ထိန်းသိမ်းထားရန်နှင့် လုပ်ငန်းသဘာဝအလျောက်ဖြစ်စေ၊ ဥပဒေအရဖြစ်စေ လိုအပ် ချက်မှလွဲ၍ မည်သည့် ပုဂ္ဂိုလ် အဖွဲ့အစည်းများသို့ တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်သော နည်းဖြင့် ဖြစ်စေ အသိပေးခြင်း၊ ထုတ်ဖော်ပြသခြင်း မပြုရပါ။

(ခ) စီမံကိန်းလုပ်ငန်းနှင့်ပတ်သက်၍ သတင်းမီဒီယာသို့ ထုတ်ဖော်ပြောဆိုခွင့်ရှိသော ဝန်ထမ်း သို့မဟုတ် တာဝန်ရှိသူ တစ်ဦးဦးကို ဖက်စပ်ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့က စည်းကမ်းသတ်မှတ်ချက်ဖြင့် တာဝန်ပေးရမည်။

၃၀။ ဖက်စပ်သဘောတူစာချုပ်အကျိုးသက်ရောက်မည့်နေ့ရက်

ဤဖက်စပ်သဘောတူစာချုပ်အား နှစ်ဦးနှစ်ဘက်အသိသက်သေစုံလင်စွာဖြင့် လက်မှတ်ရေးထိုးပြီးသော ယနေ့ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ ( ) ရက်နေ့တွင် စတင်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၃၁။ ဆက်သွယ်ရန်လိပ်စာများ

နှစ်ဖက်သောစာချုပ်ဝင်အနေဖြင့် ဆက်သွယ်ရာတွင် အောက်ပါအတိုင်းဆက်သွယ်ရမည်-

လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက် - ဗိုလ်မှူးချုပ် ခင်မောင်သန်း
ဥက္ကဋ္ဌ
လန်းပြီပင်လယ်ရေကြောင်း
ကုမ္ပဏီလီမိတက်
အမှတ် (၅၅/၆၁) ၊ ကမ်းနားလမ်း၊
ဆိပ်ကမ်းမြို့နယ်။

EFR Group of Companies (Public) Limited- ဦးကျော်လွင်ဦး
ဥက္ကဋ္ဌ
EFR Group of Companies (Public) Limited
အမှတ်(၃၉)၊ယူနိုက်တက်ကွန်ဒို (၁) ၊ ယောမင်းကြီးရပ်ကွက်၊
အလံပြဘုရားလမ်း ၊ ဒဂုံမြို့နယ်။

၃၂။ အထွေထွေ

ဤစာချုပ်လက်မှတ်ရေးထိုးခြင်းမပြုမီ နှစ်ဦးနှစ်ဘက် ယခင်ကနားလည်မှုများရှိခဲ့လျှင် ဤစာချုပ် လက်မှတ် ရေးထိုးသည့်နေ့မှစ၍ ပျက်ပြယ်သည်ဟုမှတ်ယူရမည်။ ဤစာချုပ်တွင်ပါရှိသော အချက်အလက်များသည် ယခင်က ချုပ်ဆိုနားလည်မှုများနှင့် ဆန့်ကျင်ကွဲလွဲမှုများ ရှိနေပါလျှင် ဤဖက်စပ် စာချုပ်ပါ ပြဋ္ဌာန်းချက်များက လွှမ်းမိုးရမည်။

ဤဖက်စပ်သဘောတူစာချုပ်ကို နေပြည်တော်မြို့တွင် ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ (   ) ရက်နေ့တွင် စာချုပ်ဝင် နှစ်ဦးနှစ်ဘက်မှ မိမိတို့လွတ်လပ်သော သဘောဆန္ဒများနှင့်အညီ အောက်ပါ အသိသက်သေများရှေ့တွင် အတည်ပြုလက်မှတ် ရေးထိုးကြပါသည်။

| | | | |
|---|---|---|---|
| လန်းပြိုင်လယ်ရေကြောင်း ကုမ္ပဏီလီမိတက် (ကိုယ်စား) | | EFR Group of Companies (Public) Co., Ltd. (ကိုယ်စား) | |
| လက်မှတ် | | လက်မှတ် | |
| အမည် | ဗိုလ်မှူးချုပ်ခင်မောင်သန်း | အမည် | ဦးကျော်လွင်ဦး |
| ရာထူး | ဥက္ကဋ္ဌ | ရာထူး | ဥက္ကဋ္ဌ |
| မှတ်ပုံတင် | ၁၀/ မလမ (နိုင်)၁၁၁၃၅၅ | မှတ်ပုံတင် | ၁၂/ကမရ (နိုင်)၀၀၉၂၂၂ |
| လိပ်စာ | အမှတ် ၅၅/၆၁ ကမ်းနားလမ်း၊ ဆိပ်ကမ်းမြို့နယ်၊ ရန်ကုန်မြို့ ၊ | လိပ်စာ | အမှတ် (၃၉)၊ ယူနိုက်တတ်ကွန်ဒို (၁) ယောမင်းကြီးရပ်ကွက်၊ အလံပြဘုရားလမ်း၊ ရန်ကုန်မြို့ |
| ဆက်သွယ်ရန်ဖုန်း | ၀၁-၃၇၃၀၁၄/၃၇၂၈၇၉ | ဆက်သွယ်ရန်ဖုန်း | ၀၁-၃၈၁၀၁၀/၀၁-၃၈၁၆၆၁ |

အသိသက်သေများ

| | | | |
|---|---|---|---|
| လက်မှတ် | | လက်မှတ် | |
| အမည် | ဦးစိုးတင့် | အမည် | ဦးအောင်မင်းဟာန် |
| ရာထူး | မန်နေးဂျင်ဒါရိုက်တာ | ရာထူး | အမှုဆောင်အရာရှိချုပ် |
| မှတ်ပုံတင် | ၁၂/ဒဂန (နိုင်)၀၁၁၂၈၀ | မှတ်ပုံတင် | ၁၂/မဂတ (နိုင်) ၀၇၄၄၂၉ |
| လိပ်စာ | အမှတ် ၅၅/၆၁ ကမ်းနားလမ်း၊ ဆိပ်ကမ်းမြို့နယ်၊ ရန်ကုန်တိုင်း ၊ | လိပ်စာ | အမှတ်(၃၉)၊ ယူနိုက်တတ်ကွန်ဒို (၁)၊ယောမင်းကြီးရပ်ကွက်၊ အလံပြဘုရားလမ်း၊ ရန်ကုန်မြို့ |

# လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက်နှင့်
# EFR Group of Companies (Public) Limited တို့အကြား ချုပ်ဆိုသော
# Hlaing Inland Terminal & Logistics Co.,Ltdအမည်ရှိသော ဖက်စပ်ကုမ္ပဏီတစ်ခုတည်ထောင်ခြင်း
# ဖက်စပ်သဘောတူကတိစာချုပ်

ဤဖက်စပ်သဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ်၊ဒီဇင်ဘာလ(၁၉) ရက်နေ့ တွင် ဗိုလ်ချုပ်ခင်မောင်သန်း ( နိုင်ငံသားစိစစ်ရေးအမှတ်၊၁၀/မလမ (နိုင်) ၁၁၁၃၅၅)၊ ဥက္ကဋ္ဌ ကိုယ်စားပြုသော ရန်ကုန်တိုင်း၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ် (၅၅/၆၁) တွင်တည်ရှိပြီး မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ အရ ဖွဲ့စည်းထားသည့် လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက် (နောင် တွင် "လန်းပြီ" ဟု ရည်ညွှန်းသုံးနှုန်းဖော်ပြမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်းဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရ မည် ) ကတစ်ဘက်

နှင့်

ဦးကျော်လွင်ဦး(နိုင်ငံသားစိစစ်ရေးအမှတ်၊ ၁၂/ကမရ (နိုင်) ၀၀၉၂၂၂) ၊ ဥက္ကဋ္ဌ၊ EFR Group of Companies (Public) Limited ကိုယ်စားပြုသော ရန်ကုန်မြို့၊ ယောမင်းကြီးရပ်ကွက်၊ အလံပြဘုရားလမ်း၊ အမှတ် (၃၉) ၊ ယုနိုက်တက်ကွန်ဒို(၂) တွင် တည်ရှိပြီး မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းထားသည့် EFR Group of Companies (Public)Limited (နောင် တွင် "EFR"ဟု ရည်ညွှန်း သုံးနှုန်းဖော်ပြမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်းဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူ ရမည်) က အခြားတစ်ဘက်တို့သည် အောက်ဖော်ပြပါ စည်းကမ်းချက်များ ကိုသတ်မှတ်၍ နှစ်ဘက်သဘောတူစာချုပ်ကို ရန်ကုန်မြို့တွင် ချုပ်ဆိုကြ ပါသည်။

၁။ အဓိပ္ပာယ်ဖွင့်ဆိုချက်များ

အောက်ပါစကားရပ်များသည် ဤစာချုပ်တွင်ရှေ့နောက်ဆန့်ကျင်ကွဲလွဲမှု မရှိလျှင် ဖော်ပြပါအတိုင်း အဓိပ္ပာယ်သက်ရောက်စေရမည်။

(က) "ဖက်စပ်ကုမ္ပဏီ" ဆိုသည်မှာ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ အစုရှယ်ယာဖြင့်ပေးရန်တာဝန်ကန့်သတ်လျက် လန်းပြီ နှင့် EFR တို့ အစုရှယ်ယာဝင်အဖြစ် ပါဝင်ဖွဲ့စည်းသောဖက်စပ်ကုမ္ပဏီကိုဆိုလိုသည်။

(ခ)"သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်း" ဆိုသည်မှာ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ ရေးဆွဲထားသည့် သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်း ဖြစ်သည်။

(ဂ) "ဒါရိုက်တာအဖွဲ့" ဆိုသည်မှာ ဖက်စပ်ကုမ္ပဏီ၏ ဒါရိုက်တာများဖြင့် ဖွဲ့စည်းထားသော အဖွဲ့ဖြစ်သည်။

(ဃ) "အစုရှယ်ယာရှင်" ဆိုသည်မှာ အခွင့်အာဏာ အပ်နှင်းခန့်ထားခြင်း ခံရသော ပုဂ္ဂိုလ်များက ကိုယ်စားပြုသည့် "လန်းပြီပင်လယ် ရေကြောင်းကုမ္ပဏီလီမိတက်" နှင့် "EFR Group of Companies (Public) Limited" တို့ဖြစ်သည်။

(င) "စာချုပ်ဝင်" ဆိုသည်မှာ လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီ လီမိတက် နှင့် EFR Group of Companies (Public)Limited တို့ သီးခြားစီကိုခေါ်ဆိုပြီး "စာချုပ်ဝင်များ" ဆိုသည်မှာ လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက် နှင့် EFR Group of Companies(Public)Limited တို့ကို စုပေါင်းခေါ်ဆိုခြင်းဖြစ်သည်။

(စ) "စီမံကိန်းလုပ်ငန်း" ဆိုသည်မှာ ဤစာချုပ်၏ စာပိုဒ် ၂ အဖြစ် ဖော်ပြထားသည့် ရည်ရွယ်ချက်ပါ လုပ်ငန်းများဖြစ်သည်။

၂။ ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်းတည်ထောင်ခြင်း

(က) ဤစာချုပ်၏ ရည်ရွယ်ချက်ပါလုပ်ငန်းများ လုပ်ကိုင်ရန်အတွက် လန်းပြီ နှင့် EFR တို့သည် Hlaing Inland Terminal & Logistics Co.,Ltd အမည်ရှိသော ဖက်စပ်ကုမ္ပဏီတစ်ခုကို မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီ ထူထောင်ကြပါမည်။

(ခ) ဖက်စပ်ကုမ္ပဏီကို လန်းပြီ ကိုယ်စားပြုသည့် အစုရှယ်ယာဝင်များက ရင်းနှီးမြှုပ်နှံမှုအချိုး (၅၁ %) နှင့် EFR ကိုယ်စားပြုသည့် အစုရှယ်ယာဝင်များက ရင်းနှီးမြှုပ်နှံမှုအချိုး (၄၉ %)ဖြင့် ထည့်ဝင် လုပ်ကိုင်ကြပါမည်။

(ဂ) ဖက်စပ်ကုမ္ပဏီ၏ မှတ်ပုံတင်လိပ်စာမှာ **မြေကွက်အမှတ် (၁)၊ မြေတိုင်းအမှတ် (၁၅)၊ ယောအတွင်းဝန်ဦးဖိုးလှိုင်လမ်း၊ ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်**၊ဖြစ်ပါသည်။

(ဃ) ဖက်စပ်ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့ (BOD) တွင် လန်းပြီကိုယ်စားပြု ဒါရိုက်တာ(၄)ဦးနှင့် EFR ကိုယ်စားပြုဒါရိုက်တာ (၃)ဦးတို့ ပါဝင် ရမည်။

## ၃။ ရည်ရွယ်ချက်(လုပ်ငန်းအမျိုးအစား)

မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်က ပိုင်ဆိုင်သည့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ ယောအတွင်းဝန်ဦးဖိုးလှိုင် လမ်း၊ မြေတိုင်းအမှတ် (၁၅)၊ မြေကွက်အမှတ် (၁)၊မြေအကျယ်အဝန်း (၁၅၈)ဧကခန့် အနက်မှ လန်းပြီက စီမံခန့်ခွဲပိုင်ခွင့်အပြည့်အဝရထားသော အောင်ဇေယျတံတား နှင့် ရွှေပြည်သာတံတားတို့အကြားရှိ လစ်လပ်မြေဧရိယာ ဧက(၄၈)ပေါ်တွင် ကုန်သေတ္တာဆိပ်ခံတံတား၊ ကုန်သေတ္တာထားသိုစခန်းတို့ တည်ဆောက်ပြီးနောက် ကုန်ပစ္စည်းထောက်ပံ့ပို့ဆောင်ရေးလုပ်ငန်း၊ ကုန်သေတ္တာနှင့် ဆက်စပ်သည့် ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေကြောင်းမှ ကုန်သေတ္တာများသယ်ယူခြင်းလုပ်ငန်း၊ ပို့ကုန်ဖွံ့ဖြိုးတိုးတက်ရေးအတွက် တန်ဖိုးမြှင့်တင်ခြင်းလုပ်ငန်း (Export Value Added Services)၊ ကုန်းတွင်းဆိပ်လုပ်ငန်းစသည်တို့ကို စာချုပ်ဝင်တို့သည်ဖက်စပ်ကုမ္ပဏီဖွဲ့စည်းပြီးပူးပေါင်းဆောင်ရွက်ကြရန်ဖြစ်ပါသည်။

## ၄။ အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း

လန်းပြီ နှင့် EFR တို့သည် ဤသဘောတူစာချုပ်အား မိမိတို့၏ လွတ်လပ်သော သဘောဆန္ဒအတိုင်း ဥပဒေနှင့်အညီချုပ်ဆိုရန် အခွင့်အာဏာ ရှိကြသူများ ဖြစ်ကြောင်း အာမခံပါသည်။

ဤဖက်စပ်သဘောတူစာချုပ်အား စာချုပ်ဝင်တို့ ကိုယ်စားလက်မှတ်ရေး ထိုး ကြသူများကလည်း မိမိတို့ကို ဤဖက်စပ်သဘောတူစာချုပ်အား လက်မှတ် ရေးထိုး ရန်အတွက် အခွင့်အာဏာပေးထားသောကြောင့် ကိုယ်စားပြုသူများ အဖြစ် လက်မှတ်ရေးထိုးခြင်းဖြစ်ကြောင်း အာမခံပါသည်။ (လန်းပြီ နှင့် EFR တို့က မိမိ တို့ ကုမ္ပဏီအတွက် ကိုယ်စားပြုလက်မှတ်ရေးထိုးရန် အခွင့်အာဏာ ပေးထားသည့် ကုမ္ပဏီအသီးသီး၏ အစည်းအဝေးမှတ်တမ်းအသီးသီးကို ဤဖက်စပ်သဘောတူ စာချုပ်၏ နောက်ဆက်တွဲ "က" အဖြစ် ပူးတွဲထား ပါသည်။)

EFR သည် ဤစာချုပ်ပါလုပ်ငန်းများကို အကောင်အထည်ဖော်ရန် ငွေရေး ကြေးရေးကိစ္စကို တာဝန်ယူနိုင်ကြောင်း အာမခံပါသည်။

လန်းပြီသည် အထက်စာပိုဒ် ၂ တွင် ဖော်ပြထားသည့် မြေဧရိယာ ဧက (၄၈) ကို အမည်ပေါက်ပိုင်ဆိုင်သူဖြစ်သည့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်က လန်းပြီအား စီမံခန့်ခွဲပိုင်ခွင့်နှင့် မြေအသုံးချခွင့်အခွင့်အရေးကို အပြီးအပိုင် လွှဲပြောင်းပေးထားပြီးဖြစ်ကြောင်း သို့ဖြစ်၍ လန်းပြီသည် အဆိုပါမြေဧရိယာ ဧက(၄၈)၏ မြေအသုံးချခွင့်အခွင့်အရေး(Right of use of Land) ရှိသူဖြစ် ကြောင်း အာမခံပါသည်။ (မြေကွက်ပိုင်ရှင်ဖြစ်သည့် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်က လန်းပြီအား မြေဧရိယာ ဧက(၄၈)၏ စီမံခန့်ခွဲပိုင်ဆိုင်ခွင့်နှင့် မြေအသုံးချခွင့်အခွင့်အရေးအပြည့်အဝကို လန်းပြီကုမ္ပဏီအား အပြီးအပိုင် လွှဲပြောင်းပေးထားကြောင်း အစည်းအဝေးဆုံးဖြတ်ချက် နှင့် လွှဲပြောင်းပေး သည့် စာတို့ကို နောက်ဆက်တွဲ "ခ" အဖြစ် ပူးတွဲထားပါသည်။)

၅။ ရင်းနှီးမတည်ငွေ (Capital)

(က) ခွင့်ပြုမတည်ငွေ (Authorised Capital)

ကုမ္ပဏီ၏ ခွင့်ပြုမတည်ငွေရင်း ကျပ် ၁၀၀,၀၀၀,၀၀၀,၀၀၀.၀၀ (ငွေကျပ် သန်းပေါင်းတစ်သိန်း) (Authorized Capital) ဖြင့် သတ်မှတ်ရန်နှင့် အစုရှယ်ယာတစ်စု၏ တန်ဖိုးငွေကျပ် ၁၀,၀၀၀ တန် သာမန်အစု ရှယ်ယာ (Ordinary Shares) အရေအတွက် (၁၀,၀၀၀,၀၀၀) ထားရှိမည်ဟု သဘောတူကြပါသည်။

(ခ) ကနဦးရင်းနှီးမတည်ငွေ(Paid up Capital)

ကုမ္ပဏီ၏ ကနဦးရင်းနှီးမတည်ငွေအဖြစ် ငွေကျပ် ----------------------------------------------------- ----------------ထည့်ဝင် မည်ဟုသတ်မှတ်ပြီး အစုရှယ်ယာပေါင်း -------------------------------------- စုကို အောက်ပါအတိုင်း ခွဲဝေကြပါမည်။

(၁) လန်းပြီအစုရှယ်ယာပေါင်း ၅၁,၀၀၀ စု

(၂) EFR အစုရှယ်ယာပေါင်း ၄၉,၀၀၀ စု

(ဂ) ကုမ္ပဏီတွင် လန်းပြီက အထက်စာပိုဒ် ၂ ပါ မြေကွက်၏ မြေငှားရမ်းခကို မတည်ရင်းနှီးမြှုပ်နှံမှု၏ ၅၁% အဖြစ် ထည့်ဝင် မည်ဖြစ်ပြီး၊ EFR သည် ငွေသားကို မတည်ရင်းနှီးမြှုပ်နှံမှု၏ ၄၉% ထည့်ဝင်ပါမည်။ ကုမ္ပဏီတွင် ရင်းနှီးမြှုပ်နှံမှု လိုအပ်သည့်အချိန်တိုင်း လန်းပြီက ၅၁ % အချိုးဖြင့်လည်း ကောင်း၊ EFR က ငွေသားကို ၄၉ % အချိုးဖြင့်လည်းကောင်း အသီးသီးထည့်ဝင်ကြပါမည်။

(ဃ) အစုရှယ်ယာထည့်ဝင်မှုကို ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ (-----)လအတွင်း အပြည့်အဝထည့်ဝင်ပြီးဖြစ်ရမည်။

၆။ အစုရှယ်ယာလွှဲပြောင်းခြင်း

ဖက်စပ်ကုမ္ပဏီ၏ အစုဝင်တစ်ဘက်ဘက်သည် ကျန်အစုဝင်တစ်ဘက်က စာဖြင့်ရေးသား သဘောတူညီချက်မရဘဲ မိမိ၏ အစုရှယ်ယာအားလုံးကို ဖြစ်စေ၊ တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ၊ အခြားသူအား လွှဲပြောင်းပေးခြင်း၊ ရောင်းချခြင်းမပြုလုပ်ရပါ။ အစုရှယ်ယာဝင်တစ်ဦးသည် မိမိ၏အစုရှယ်ယာကို ရောင်းချလိုပါက ကျန်အစုဝင်တစ်ဘက်ကို ကာလပေါက်ဈေးဖြင့် ဦးစားပေးရောင်းချရမည်။ အစုဝင်တစ်ဘက်ဘက်သည် မိမိတို့ဘက်မှ အစုရှယ်ယာအားလုံးကို ရောင်းချရန် ကျန်အစုဝင်တစ်ဘက်ကို အကြောင်းကြားပါလျက်နှင့် မဝယ်ယူပါက ရောင်းချလိုသော အစုဝင်တစ်ဘက်သည် အခြားသူကို လွှဲပြောင်းရောင်းချခွင့်ရှိသည်။ သို့ရာတွင် ဝယ်ယူမည့်သူကို ကျန်အစုဝင်ဘက်က သဘောတူရန်လိုပါသည်။ အစုဝင်တစ်ဘက်ဘက်သည် မိမိရှယ်ယာအားလုံးကို ရောင်းချမည်ဆိုယုံနှင့် အခြားတစ်ဘက်မှ အစုဝင်တို့၏ အစုရှယ်ယာများကို ရောင်းချရန် တိုက်တွန်းခွင့်မရှိပါ။

၇။ ထပ်တိုးရင်းနှီးမြှုပ်နှံငွေ ရှာဖွေခြင်း (Additional Funding)

(က) ဖက်စပ်ကုမ္ပဏီ၏ တည်ဆောက်ရေးလုပ်ငန်းအတွက် ငွေကြေးလိုအပ်ပါက EFR သည် ပြည်တွင်းပြည်ပရှိ မည်သည့်ဘဏ်မှမဆို ဖက်စပ်ကုမ္ပဏီအမည်ဖြင့် ငွေချေးယူရာတွင် လန်းပြီသည်လိုအပ်သည်များကိုခွင့်ပြုပြီးချေးငွေရရှိရေးအတွက် လိုအပ်သလို ထောက်ပံ့ကူညီပေးရမည်။

(ခ) အဆိုပါချေးငွေနှင့်စပ်လျဉ်း၍ ပြန်လည်ပေးဆပ်ရန်အတွက် EFR မှ အပြည့်အဝတာဝန်ယူရမည်။ အဆိုပါချေးငွေအပေါ်တွင် လန်းပြီ မှ ပြန်လည်ပေးဆပ်ရန် တာဝန်မရှိစေရ။

၈။ **အစုရှယ်ယာရှင်များ၏ အစည်းအဝေး**

(က) နှစ်ပတ်လည်အထွေထွေအစည်းအဝေး (AnnualGeneral Meeting)နှစ်ပတ်လည်အထွေထွေအစည်းအဝေးကို မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီ ကုမ္ပဏီဖွဲ့စည်းတည်ထောင်သည့်နေ့မှ (၁၈)လအတွင်းပြုလုပ်ရမည့်အပြင် ၎င်းနောက်တွင် နောက်ဆုံးအစည်းအဝေး ပြုလုပ်ပြီးနောက် (၁၅)လထက်မပိုစေဘဲ ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် ပြုလုပ်ရမည်။ နှစ်ပတ်လည်အထွေထွေအစည်းအဝေး ဖြစ်မြောက်ရန်အတွက် လိုအပ်သောဦးရေမှာ အစုရှယ်ယာရှင် (၂)ဦးကိုယ်တိုင်သို့မဟုတ်တရားဝင်စာဖြင့်ခန့်အပ်သောကိုယ်စားလှယ် (Proxy) ဖြစ်သည်။ နှစ်ပတ်လည်အထွေထွေအစည်းအဝေးတွင် အောက်ပါလုပ်ငန်းကိစ္စများကို ဆောင်ရွက်ရမည်-

(၁)ဒါရိုက်တာအဖွဲ့၏အစီရင်ခံစာ၊နှစ်ချုပ်ဘဏ္ဍာရေးစာရင်းများ နှင့် စာရင်းစစ်အစီရင်ခံစာကို အတည်ပြုခြင်း။

(၂) အမြတ်ဝေစုများကြေငြာခြင်းနှင့် အမြတ်ဝေစုထုတ်ပေးမည့်ရက် သတ်မှတ်ခြင်း။

(၃)ဒါရိုက်တာများနှုတ်ထွက်ခြင်း၊ပြန်လည်ခန့်ထားခြင်း၊အသစ် ပြန်လည်ခန့်ထားခြင်း။

(၄) စာရင်းစစ်ခန့်ထားခြင်း။

(၅)လာမည့်ဘဏ္ဍာရေးနှစ်အတွင်း ဆောင်ရွက်မည့်လုပ်ငန်း စီမံချက်များနှင့် အခြားကိစ္စများ။

(ခ) **အစုရှယ်ယာရှင်များ၏ အထူးအစည်းအဝေး**

ဖက်စပ်ကုမ္ပဏီ၏ အရေးပေါ်အရေးတကြီးကိစ္စများကို ဆုံးဖြတ်နိုင်ရန်အတွက် အစုရှယ်ယာရှင်များ၏ အထူးအစည်းအဝေးကို ဒါရိုက်တာ အဖွဲ့၏ ဆုံးဖြတ်ချက်အရလည်းကောင်း၊ အစုရှယ်ယာ ၁၀ ပုံ ၁ ပုံထက် မနည်းသော အစုရှယ်ယာကို ပိုင်ဆိုင်သူတစ်ဦးဦးက တောင်းဆိုလျှင်သော်လည်းကောင်း အစည်းအဝေးကျင်းပရန် ၂၁ ရက်အလိုတွင် အစည်းအဝေးကျင်းပမည့်ရက် သတ်မှတ်ပြီး အစည်းအဝေးခေါ်ယူနိုင်သည်။ အထူးအစည်းအဝေး ဖြစ်မြောက်စေရန်အတွက် အစုဝင်တစ်ဘက်စီမှ ဒါရိုက်တာအဖွဲ့ဝင် အနည်းဆုံး (၁)ဦး တက်ရောက်ရမည်။

၉။ **ဒါရိုက်တာအဖွဲ့ အစည်းအဝေးများ**

(က) ဒါရိုက်တာအဖွဲ့ ပုံမှန်အစည်းအဝေးကို အနည်းဆုံး တစ်လလျှင် တစ်ကြိမ် ကျင်းပရမည်။

(ခ) ဥက္ကဋ္ဌသည် အထူးကိစ္စရှိပါက အစည်းအဝေးခေါ်ယူခွင့်ရှိသည့်အပြင် အစုဝင်တစ်ဘက်ဘက်မှ ဒါရိုက်တာများသည်လည်း အထူးကိစ္စရှိပါက အစည်းအဝေးခေါ်ယူပေးရန် တောင်းဆိုခွင့်ရှိပါသည်။ ထိုသို့တောင်းဆိုပါက ဒါရိုက်တာအဖွဲ့သည် ချက်ချင်း ထိုအစည်းအဝေးကို ကျင်းပပေးရမည်။ ဒါရိုက်တာအဖွဲ့က ခေါ်ယူသည့် ဒါရိုက်တာအဖွဲ့ အထူး အစည်းအဝေးကျင်းပရန် (၁၄)ရက်ကြိုတင် နို့တစ်စာပေးရမည်။ နို့တစ်စာတိုင်းတွင် အစည်းအဝေးကျင်းပမည့် အကြောင်းအရာ၊ ဆွေးနွေးမည့် အကြောင်းအရာများနှင့် ပတ်သက်၍ သင့်လျော်သော အသေးစိတ်အချက်အလက်များကို ဖော်ပြရမည်။

(ဂ) ဒါရိုက်တာအဖွဲ့အစည်းအဝေးဖြစ်မြောက်ရန် လိုအပ်သောဦးရေသည် အနည်းဆုံး ဒါရိုက်တာ(၄)ဦးဖြစ်ပြီး အစုဝင်တစ်ဘက်စီမှ အနည်းဆုံး တစ်ဦးတက်ရောက်မှသာ အစည်းအဝေး အထမြောက်ပါမည်။

(ဃ) အစည်းအဝေးတိုင်းတွင် လန်းပြီမှ ဒါရိုက်တာတစ်ဦးသည် ဥက္ကဋ္ဌ/ သဘာပတိအဖြစ် ဆောင်ရွက်ရမည်။ အစည်းအဝေးတက်ရောက် သော ဒါရိုက်တာများက လန်းပြီ၏ ကိုယ်စားပြု ဒါရိုက်တာ တစ်ဦးကို အစည်းအဝေး သဘာပတိအဖြစ် ရွေးချယ်ရမည်။

(င) ဒါရိုက်တာအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်တိုင်းအတွက် တက်ရောက်လာသည့် ဒါရိုက်တာအဖွဲ့ဝင်များအားလုံး ဒါရိုက်တာအားလုံး၏ တစ်ညီတစ်ညွတ်တည်းသော သဘောဆန္ဒမဲဖြင့်သာ ဆုံးဖြတ်ရမည်။

၁၀။ **အစည်းအဝေးမှတ်တမ်းများ**

ဖက်စပ်ကုမ္ပဏီ၏ သင်းလုံးကျွတ်အစည်းအဝေး၊ အစုရှယ်ယာဝင်များ၏ အထူးအစည်းအဝေး ဒါရိုက်တာအဖွဲ့၏ ပုံမှန်အစည်းအဝေး၊ အထွေထွေအရပ်ရပ် အစည်းအဝေးအစရှိသည့် ဖက်စပ်ကုမ္ပဏီ၏ ဒါရိုက်တာများ သို့မဟုတ် အစုရှယ်ယာဝင်များဖြင့် ကျင်းပပြုလုပ်သည့် အစည်းအဝေးတိုင်း၏ ဆောင်ရွက်ချက် မှတ်တမ်းများကို ဖက်စပ်ကုမ္ပဏီ၏ ရုံးခန်းရှိ အစည်းအဝေးမှတ်တမ်းစာအုပ်တွင် စနစ်တကျမှန်ကန်စွာ ရေးသွင်းပြီး မှတ်တမ်းပြုစုသူက လက်မှတ်ရေးထိုးထားရမည်။ အဆိုပါ အစည်းအဝေးမှတ်တမ်းများ၏ မိတ္တူကို ကုမ္ပဏီ၏ ဒါရိုက်တာ သို့မဟုတ် အစုရှယ်ယာဝင်တိုင်းသည် အခမဲ့တောင်းယူခွင့်ရှိသည်။

၁၁။ **လုပ်ငန်းစီမံခန့်ခွဲမှုနှင့် အုပ်ချုပ်ခြင်း**

ဒါရိုက်တာအဖွဲ့တွင် ဥက္ကဋ္ဌအဖြစ် လန်းပြီဘက်မှ ဒါရိုက်တာ ၁ ဦးက ဆောင်ရွက်မည်။ ဖက်စပ်ကုမ္ပဏီ၏ လုပ်ငန်းများကို စီမံခန့်ခွဲနိုင်ရန် မန်နေဂျင်းဒါရိုက်တာကို EFR မှ ရွေးချယ်သူကို ဒါရိုက်တာအဖွဲ့က ခန့်ထား ရမည်။ မန်နေဂျင်းဒါရိုက်တာ၏ တာဝန်ဝတ္တရားများကို ဒါရိုက်တာအဖွဲ့မှ သတ်မှတ်ပေးရမည်။ မန်နေဂျင်းဒါရိုက်တာသည် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် တာဝန်များအပြင် အောက်ဖော်ပြပါကိစ္စရပ်များကို ကြီးကြပ်ဆောင်ရွက်ရန် တာဝန်ရှိသည်-

(က) မန်နေဂျင်းဒါရိုက်တာသည် ဒါရိုက်တာအဖွဲ့ကို တာဝန်ခံရမည်။ ကုမ္ပဏီ၏ နေ့စဉ်လုပ်ငန်းတာဝန်များကို သင်းဖွဲ့စည်းမျဉ်းနှင့်အညီ စီမံခန့်ခွဲဆောင်ရွက်ရန် တာဝန်ရှိသည်။

(ခ) စီမံကိန်းလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်တွင် ရေထု၊လေထု၊မြေထုညစ်ညမ်းမှု၊ ပျက်ယွင်းမှုမရှိစေရန် ကြိုတင်ကာကွယ်ခြင်းနှင့် ထိန်းသိမ်းခြင်း။

(ဂ) စီမံကိန်းလုပ်ငန်းများဆောင်ရွက်ရာတွင် စီမံကိန်းနယ်မြေပတ်ဝန်း ကျင်တွင် သာယာစိုပြေစေရန် နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်း၊ ရေဆိုးထုတ်စနစ်ဖြင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်စေရန် ဆောင်ရွက်ခြင်း။

၁၂။ **စာရင်းများနှင့်စာရင်းစစ်ဆေးခြင်း**

ဤစာချုပ်၏ ရည်ရွယ်ချက်ပါ တည်ဆောက်ရေးလုပ်ငန်းများ၊ ဝန်ဆောင်မှုလုပ်ငန်းများနှင့် ကျန်လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် အသုံးပြုသော ငွေကြေးအရင်းအနှီး၊ ကုန်ကျစရိတ်၊ ပစ္စည်းစာရင်း အစရှိသည်တို့ကို ဖက်စပ်ကုမ္ပဏီက ခန့်ထားသော လက်မှတ်ရစာရင်းကိုင်၊ စာရင်းစစ်များက ပုံမှန်ရေးသွင်းခြင်း၊ စစ်ဆေးခြင်းပြုလုပ်ရန် ဒါရိုက်တာအဖွဲ့က စာရင်းစစ်စာရင်းကိုင် ဝန်ထမ်းများကို ရွေးချယ်ခန့်ထားရမည်။ မြန်မာနိုင်ငံစာရင်းကိုင်များ လိုက်နာရမည့် စံနှုန်းများနှင့်အညီ ရေးဆွဲထားသည့် အဆိုပါစာရင်းများကို ဒါရိုက်တာအဖွဲ့သည် အခါအားလျော်စွာစစ်ဆေးပြီး လက်မှတ်ရေးထိုးထားရမည်။ အဆိုပါစာရင်းများကို အစုရှယ်ယာရှင်များ၏ နှစ်ပတ်လည်အစည်းအဝေးတွင် ရှင်းလင်းဖတ်ကြားပြီး အတည်ပြုချက်ရယူရမည်။

၁၃။ **မပြိုင်ဆိုင်ခြင်း**

ဖက်စပ်ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းတွင် ဖော်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များ အလားတူလုပ်ငန်းများအားတည်ရှိပြီးဖြစ်သည့် လက်ရှိ ဆောင်ရွက်နေသော လုပ်ငန်းများမှအပ ဤလုပ်ငန်းတည်ရှိသည့် ရန်ကုန်မြို့အတွင်း အခြားမည်သူနှင့်မျှ လုပ်ကိုင်ခြင်းမပြုစေရ။

၁၄။ **အကျိုးအမြတ်ခွဲဝေခြင်း**

(က) တည်ဆောက်ရေးလုပ်ငန်းများ၃ **နှစ်တာကာလအတွင်းပြီးစီးပြီးနောက်** စီးပွားဖြစ်လုပ်ငန်းများ ဆောင်ရွက်ချိန်တွင် အကျိုးအမြတ်ပေါ်ထွက်လာပါက ရရှိသောအကျိုးအမြတ်ထဲမှ ၅၁%ကို လန်းပြီမှလည်းကောင်း၊ ၄၉ % ကို EFR မှလည်းကောင်း ခွဲဝေယူရန် သဘောတူကြပါသည်။

(ခ) ခွဲဝေယူမည့်အကျိုးအမြတ်ကို တွက်ချက်ရာတွင် စီးပွားဖြစ်လုပ်ငန်းများ စတင်ချိန်မှစ၍ ရရှိသည့်ဝင်ငွေထဲမှ လုပ်ငန်းလည်ပတ်မှု ကုန်ကျစရိတ်အားလုံးနှင့် အခွန်အခအားလုံးနှုတ်ပြီး အသားတင်အကျိုးအမြတ်ထဲမှ ခွဲဝေယူကြပါမည်။

၁၅။ **ဖက်စပ်သဘောတူစာချုပ်ရပ်စဲခြင်း**

(၁) စာချုပ်ဝင်တို့သည် အောက်ဖော်ပြပါ အခြေအနေတစ်ရပ်ရပ် ဖြစ်ပေါ်လာပါ က ဤဖက်စပ်သဘောတူစာချုပ်ကို ရပ်စဲခွင့်ရှိသည်-

(က) စာချုပ်ဝင်များက **စီမံကိန်းလုပ်ငန်း၏ မူလရည်ရွယ်ချက်များ**အကောင်အထည်ဖော်ရန် အခက်အခဲရှိကြောင်းတွေ့ရှိပါက စာချုပ်ရပ်စဲခွင့်ရှိသည်။

(ခ) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်နေသည့်အခါ ရပ်စဲခွင့်ရှိသည်။

(ဂ) ဤစာချုပ်၏ စာပိုဒ် ၂၆၊၂၇တွင်ဖော်ပြထားသည့်မလွန်ဆန်နိုင်သည့်ဖြစ်ရပ်တွင်အကျုံးဝင်သော ကြိုတင်မမျှော်လင့်နိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သော ဖြစ်ရပ်များသည်(၆)လထက်မနည်းဖြစ်ပေါ်သည့်အခါ၊တစ်ဘက်နှင့်တစ်ဘက် (၁)လကြိုတင် နို့တစ်စာဖြင့်အကြောင်းကြားပြီး ရပ်စဲခွင့်ရှိသည်။

**(ဃ) စာချုပ်ဝင်တစ်ဦးဦးလူခွဲအဖြစ်ခံယူသွားလျှင် ရပ်စဲခွင့်ရှိသည်။**

**(င) စာချုပ်ဝင်နှစ်ဦးနှစ်ဘက် သဘောတူညီမှုဖြင့် မြန်မာ့ရင်းနှီး မြှုပ်နှံမှုကော်မရှင်ထံ စာချုပ်ဖျက်သိမ်းရန် တင်ပြလျှင် စာချုပ်**

**ရပ်စဲသည်။**

(စ) ဖက်စပ်ကုမ္ပဏီဖျက်သိမ်းသည့်အခါအလိုအလျောက်ရပ်စဲသည်။

**(ဆ) ဤစာချုပ်အား သက်တမ်းတိုးခြင်း၊ပြင်ဆင်ခြင်းများ ဆောင်ရွက်ပြီး၍ စာချုပ်သက်တမ်းကုန်လျှင် စာချုပ်အလို အလျောက် ရပ်စဲသည်။**

(၂) အထက်ဖော်ပြပါ အကြောင်းအချက်တစ်ရပ်ရပ်ကြောင့် စာချုပ်ရပ်စဲပါ ကမြန်မာနိုင်ငံကုမ္ပဏီအက်ဥပဒေအရ၊တရားရုံးအမိန့်အရဖြစ်စေ၊ အလိုအလျောက် ဖြစ်စေ (Liquidation by Order of the Court or Voluntary Liquidation) စာရင်းရှင်းလင်း ဖျက်သိမ်းရမည်။

၁၆။ **ဖက်စပ်သဘောတူစာချုပ်ဖျက်သိမ်းခြင်း**

(က) စာချုပ်ဝင်တစ်ဘက်က ဤစာချုပ်တွင် သတ်မှတ်ထားသော ဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန်တာဝန်ကို တမင်ဖြစ်စေ၊ ပေါ့လျော့၍ဖြစ်စေ၊ မရိုးမဖြောင့်သောသဘောဖြင့်ဖြစ်စေ၊ မဆောင် ရွက်ဘဲ ပျက်ကွက်သည့်အတွက် ပျက်ကွက်သူ စာချုပ်ဝင်ကို ကျန် တစ်ဘက်က စာချုပ်ဖျက်သိမ်းမည့်အကြောင်း (၃)လကြိုတင် နို့တစ်စာ ပေးပြီး ဖျက်သိမ်းခွင့်ရှိသည်။ ယင်းသို့ဖျက်သိမ်းပါက ဖျက်သိမ်းသည့် စာချုပ်ဝင်သည် မိမိ၏နစ်နာမှုအတွက် ကျန်စာချုပ်ဝင်ထံမှ ထိုက်သင့်သော နစ်နာကြေးလျော်ကြေးကို တောင်းခံခွင့်ရှိသည်။

(ခ) သက်ဆိုင်ရာအစိုးရအဖွဲ့ သို့မဟုတ် အာဏာပိုင်တို့က ဤဖက်စပ် သဘောတူစာချုပ်တွင် ဖော်ပြသည့် မြေနေရာပေါ်တွင် လုပ်ငန်းဆောင်ရွက်ခွင့်အား တားမြစ်ခြင်းပြုပါက ဤသဘောတူစာချုပ်၏ စာပိုဒ် (၂၆) အရ ဆက်လက်ဆောင်ရွက်ရမည်။

(ဂ) လုပ်ငန်းဆောင်ရွက်ရန် မြေနေရာပေါ်တွင် ဖက်စပ်ကုမ္ပဏီက စီမံကိန်းလုပ်ငန်း တည်ဆောက်လုပ်ကိုင်ရန် မြေအသုံးချခွင့်အခွင့်အရေးကို အပြည့်အဝ သုံးစွဲခွင့်ရှိရပါမည်။ ထိုအခွင့်အရေးကို လန်းပြီက တစ်နည်းနည်းဖြင့် ပြန်လည်ရုပ်သိမ်းပါက EFR ၏ နစ်နာမှုကို လန်းပြီက ပေးလျော်ပြီးမှ ဤဖက်စပ်သဘောတူစာချုပ်ကို ဖျက်သိမ်းခွင့်ရှိပါသည်။

၁၇။ **ဖက်စပ်ကုမ္ပဏီအား စာရင်းရှင်းလင်း ဖျက်သိမ်းခြင်း**

ဤဖက်စပ်သဘောတူစာချုပ် ရပ်စဲသည့်အခါတွင်လည်းကောင်း၊ ဘဏ္ဍာရေးနှစ်ကုန်သည့်အခါ ကုမ္ပဏီရှိ ထည့်ဝင်ရင်းနှီးထားသော သုံးပုံ - နှစ်ပုံ ထက်မနည်း ဆုံးရှုံးနေသဖြင့် စာချုပ်ဝင်တစ်ဦးဦးက ကုမ္ပဏီအား စာရင်းရှင်းလင်းဖျက်သိမ်း ပေးရန် တောင်းဆိုလာလျှင်သော်လည်းကောင်း သက်ဆိုင်ရာ တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းနှင့်အညီ ကုမ္ပဏီအား စာရင်းရှင်းလင်းဖျက်သိမ်းရန် ဆောင်ရွက်ရမည်။

၁၈။ **စာချုပ်သက်တမ်း**

ဖက်စပ်သဘောတူစာချုပ်၏ သက်တမ်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိသည့်နေ့မှ နှစ် (၅၀) ကာလအထိ အကျိုးသက်ရောက်မှုရှိပြီး ဤစာချုပ်၏ ရည်ရွယ်ချက်ပါလုပ်ငန်းကို ကနဦး နှစ် (၅၀) ကာလထက် ကျော်လွန်ပြီး သက်တမ်းတိုးမြှင့် ဆောင်ရွက်ရန် သဘောတူပါက နောက်ထပ် အနှစ် ၂၀ ကာလကို ၁၀ နှစ် သက်တမ်း (၂) ကြိမ် စာချုပ်သက်တမ်းတိုးမြှင့်ရန် သဘောတူကြပါသည်။

၁၉။ **ဖက်စပ်ကုမ္ပဏီဖွဲ့စည်းခြင်း ကုန်ကျစရိတ်နှင့် အခွန်အခများ**

ဤဖက်စပ်သဘောတူစာချုပ်အပါအဝင် ဖက်စပ်ကုမ္ပဏီဖွဲ့စည်းခြင်း အတွက် ကုန်ကျစရိတ်၊ အကျိုးဆောင်ခ (Consultation Fees) စသည်တို့ကို စာချုပ်ဝင် တို့သည် အညီအမျှကျခံပေးချေကြပါမည်။ ဖက်စပ်ကုမ္ပဏီဖွဲ့စည်းပြီးသည့် နောက်ပိုင်း ဖက်စပ်ကုမ္ပဏီက ဆောင်ရွက်သည့် စီမံကိန်းလုပ်ငန်းများ၊ ဝန်ဆောင်မှု လုပ်ငန်းများနှင့် တင်သွင်းသည့် ပစ္စည်းများအပေါ် အခွန်အကောက် စည်းကြပ် ပါ က ဖက်စပ်ကုမ္ပဏီ၏ငွေစာရင်းမှ ပေးသွင်းရမည်။

၂၀။ **လွှမ်းမိုးသည့်ဥပဒေ (Governing Law)**

ဤဖက်စပ်သဘောတူစာချုပ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများ၊ နည်းဥပဒေ၊ အမိန့်ကြော်ငြာစာနှင့်အညီ ဖြစ်စေရမည်။ ထို့အပြင် ဤစာချုပ်နှင့် စပ်လျဉ်းသောကိစ္စအရပ်ရပ်အတွက် မြန်မာနိုင်ငံတရားရုံး ၏ စီရင်ပိုင်ခွင့်ကို နာခံရမည်။

၂၁။ **အငြင်းပွားမှုဖြေရှင်းခြင်း**

ဤသဘောတူစာချုပ်ပါ အချက်အလက်များနှင့် ပတ်သက်ပြီး အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်လာပါက စာချုပ်ဝင်နှစ်ဦးနှစ်ဘက်တို့သည် ဆွေးနွေး ညှိနှိုင်းခြင်းဖြင့် အငြင်းပွားမှုကို ဦးစွာဖြေရှင်းရမည်။ ထိုသို့ ဦးစွာဖြေရှင်း ဆွေးနွေးညှိနှိုင်း၍ ပြေလည်မှုမရရှိပါက ၂၀၁၆ ခုနှစ် ပြည်ထောင်စုလွှတ်တော် ဥပဒေ အမှတ် ၅ ဖြစ်သည့် အနုညာတစီရင်ဆုံးဖြတ်ခြင်း ဥပဒေနှင့် အဆိုပါ ဥပဒေ နှင့် သက်ဆိုင်သော နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ နည်းဥပဒေပြဋ္ဌာန်းထားခြင်း မရှိသေးပါက UNCITRAL RULES နှင့်အညီ အနုညာတခုံရုံးမှ ဖြေရှင်း ပေးရန်အတွက် ခုံသမာဓိလူကြီး တစ်ဦးစီကို စာချုပ်ဝင်တစ်ဘက်စီတို့က ရွေးချယ်ခန့်ထားရမည်။ ထိုသို့ခန့်ထားသည့် ခုံသမာဓိလူကြီး ၂ ဦးက သမာဓိလူကြီး ၁ ဦး ကို ရွေးချယ်ပြီး အဆိုပါ ခုံသမာဓိလူကြီး ၃ ဦးပါဝင်သည့် အနုညာတခုံရုံးသည် ၂၀၁၆ ခုနှစ် ပြည်ထောင်စုလွှတ်တော် ဥပဒေ အမှတ် ၅ ဖြစ်သည့် အနုညာတ စီရင်ဆုံးဖြတ်ခြင်း ဥပဒေနှင့် အဆိုပါ ဥပဒေနှင့်သက်ဆိုင်သော နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ စီရင်ဆုံးဖြတ်ပေးရမည်။ အနုညာတခုံရုံး၏ ဆုံးဖြတ်ချက်သည်

အငြင်းပွားသူနှစ်ဘက်အပေါ် အပြီးသတ်အတည် ဖြစ်စေရမည် ဖြစ်ပြီး၊ အနုညာတစီရင်ဆုံးဖြတ်ချက်ကို သက်ဆိုင်ရာတရားရုံးက အတည်ပြုဆောင်ရွက်ရန် တင်ပြခွင့်ရှိသည်။ အနုညာတခုံရုံး၏ ရုံးထိုင်ရာနေရာသည် ရန်ကုန်မြို့တွင် ဖြစ်ရမည်။ အမှုအတွက်ကုန်ကျစရိတ်ကို အမှုရှုံးသည့်ဘက်မှ ကျခံရမည်။

၂၂။ **ဖက်စပ်သဘောတူစာချုပ်ပြင်ဆင်ခြင်း**

ဤဖက်စပ်သဘောတူစာချုပ်အား စာချုပ်ဝင်နှစ်ဦးနှစ်ဖက် စာဖြင့်သဘောတူညီထားသည့် ပြင်ဆင်ချက်အရ ပြင်ဆင်ခြင်း (သို့မဟုတ်) ပြောင်းလဲ ခြင်း (သို့မဟုတ်) ဖြည့်စွက်ခြင်းပြုနိုင်သည်။ ယင်းပြင်ဆင်ပြောင်းလဲဖြည့်စွက်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

၂၃။ **ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်းနှင့် မီးဘေးကာကွယ်ခြင်း**

ဖက်စပ်ကုမ္ပဏီသည် စီမံကိန်းလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်တွင် ရေထု၊ လေထု၊ မြေထုညစ်ညမ်းမှု၊ ပျက်ယွင်းမှုများမရှိစေရန် ကြိုတင်ကာကွယ်ခြင်းနှင့် ထိန်းသိမ်းခြင်းတို့အတွက် တာဝန်ရှိရမည်။ ဖက်စပ်ကုမ္ပဏီသည် ပတ်ဝန်းကျင်အကာအကွယ်အဖြစ် ရေဆိုးထုတ်စနစ်နှင့် အခြားနည်းလမ်းများဖြင့် စီမံကိန်းနယ်မြေ ပတ်ဝန်းကျင်သာယာစိုပြေနှစ်လိုဖွယ် ဖြစ် စေရမည်။ ဖက်စပ်ကုမ္ပဏီ၏ ပေါ့ဆမှုကြောင့် မီးဘေးအန္တရာယ်မဖြစ်ပေါ်စေရေးအတွက် အလုပ်ရုံအတွင်း/အပြင်နှင့် စက်လိုင်းများတွင်လျှပ်စစ်ဝါယာကြိုးများ စနစ်တကျသွယ်တန်းအသုံးပြုခြင်း၊ လျှပ်စစ်ဝါယာကြိုးများအား အမြဲမပြတ်စစ်ဆေးခြင်း၊ အလုပ်ရုံဝင်းအတွင်းနှင့် အလုပ်ရုံအတွင်း သန့်ရှင်းရေးအမြဲဆောင်ရွက်ခြင်းနှင့် မီးဘေးကာကွယ်ရေးပစ္စည်းများ အဆင်သင့်ထားရှိခြင်းများ ဆောင်ရွက်ရမည်။**တည်ဆဲဥပဒေများနှင့်အညီ ဖြစ်စေရမည်။**

၂၄။ **အာမခံထားရှိခြင်း**

ဖက်စပ်ကုမ္ပဏီပိုင် ပုံသေပစ္စည်းများ၊ ကုန်ပစ္စည်းများအတွက် လိုအပ်သည့် အာမခံများထားရှိရန်ကိစ္စ၊ ပရီမီယံပေးသွင်းရန်ကိစ္စနှင့် ဝန်ထမ်းများအတွက် အလုပ်ရှင်အနေနှင့် လူမှုဖူလုံရေးရန်ပုံငွေ ထည့်ဝင်ပေးရန်ကိစ္စတို့ကို မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများနှင့်အညီ ဖက်စပ်ကုမ္ပဏီက ပေးသွင်းရမည်။

၂၅။ **ဆန့်ကျင်ကွဲလွဲခြင်း**

ဤဖက်စပ်သဘောတူစာချုပ်ပါ စည်းကမ်းချက်များသည် ဖက်စပ်ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း၊ အစုရှယ်ယာရှင်များ၏ သဘောတူညီချက်ပါ စည်းကမ်းချက်များနှင့် ဆန့်ကျင်ကွဲလွဲနေပါက မြန်မာနိုင်ငံကုမ္ပဏီများဆိုင်ရာ ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ သတ်မှတ်ခွင့်ပြုထားသော အတိုင်းအတာအထိသာ ဤစာချုပ်ပါ စည်းကမ်းချက်များက လွှမ်းမိုးစေရမည်။

၂၆။ **မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

အကယ်၍ စာချုပ်ဝင်တစ်ဦးသည် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဤ သဘောတူစာချုပ်ပါ ၎င်း၏တာဝန်များကို တစ်စိတ်တစ်ဒေသဖြစ်စေ၊ အားလုံး ကိုဖြစ်စေ ယာယီအားဖြင့် ထမ်းဆောင်နိုင်စွမ်းမရှိခြင်း သို့မဟုတ် အခြား စာချုပ်ဝင်မှ ဆောင်ရွက်မှုအား လက်ခံဆောင်ရွက်နိုင်စွမ်းမရှိလျှင် အဆိုပါ မလွန်ဆန် နိုင်သောဖြစ်ရပ်နှင့် ပတ်သက်၍ အချက်အလက်အပြည့်အစုံကို စာဖြင့်ရေးသား၍ ထိခိုက်ပျက်စီးဆုံးရှုံးသော စာချုပ်ဝင်သည် အခြားစာချုပ်ဝင်သို့ ယင်းဖြစ်ရပ် ပေါ်ပေါက်ပြီး (၁၄)ရက်အတွင်း နို့တစ်စာ (အသိပေးအကြောင်းကြားစာ) ပေးပို့ရမည်။ အခြားစာချုပ်ဝင်က လက်ခံလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ထိခိုက်ဆုံးရှုံးသော ထိုစာချုပ်ဝင်၏ တာဝန်များကို အခြားစာချုပ်ဝင်၏ အတည်ပြုချက်ဖြင့် ဆက်လက်ဆောင်ရွက်နိုင်စွမ်း မရှိသည့်ကာလအတွင်း ရပ်ဆိုင်းထားရမည် ဖြစ်သည်။ ကာလရှည်ကြာသော အခြေအနေမှတစ်ပါး လူတို့မစွမ်းဆောင်နိုင်သည့် အခြေအနေများကို အတတ်နိုင်ဆုံး ဖယ်ရှားပစ်ရမည်။ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် နှောင့်နှေးကြန့်ကြာသောထိခိုက်မှု သို့မဟုတ် ဆုံးရှုံးမှုအတွက် မည်သည့်စာချုပ်ဝင်တွင်မျှ တာဝန်မရှိစေရ။

၂၇။ ဤသဘောတူစာချုပ်ပါ "မလွန်ဆန်နိုင်သောဖြစ်ရပ်" ဆိုသော စကားရပ်သည် မမျှော်မှန်းနိုင်သော ဘေးအန္တရာယ်၊ အစိုးရ၏ ကန့်သတ်တားမြစ်ချက်၊ သပိတ်မှောက်ခြင်းများ၊ အလုပ်ပိတ်ထားခြင်း၊ စက်မှုဆိုင်ရာအနှောင့်အယှက်များ၊ ပေါက်ကွဲမှုများ၊ မီးလောင်မှုများ၊ ရေလွှမ်းမိုးမှုများ၊ မြေငလျင်များ၊ မုန်တိုင်းများ၊မိုးကြိုးပစ်ခြင်းများနှင့် အခြားအလားတူဖြစ်ရပ်များကိုဆိုလိုပြီး စာချုပ်ဝင် တစ်ဦးဦးက ထိန်းချုပ်နိုင်မှုမရှိခြင်းနှင့် ဂရုတစိုက်နှင့် လုံ့လဝီရိယစိုက်ထုတ်၍ လုပ်ဆောင်သော်လည်း လွန်မြောက်နိုင်စွမ်းမရှိသော ဖြစ်ရပ်များကို ဆိုလိုသည်။

၂၈။ **ဆက်သွယ်ရန်လိပ်စာများ**

နှစ်ဖက်သောစာချုပ်ဝင်အနေဖြင့် ဆက်သွယ်ရာတွင် အောက်ပါအတိုင်း ဆက်သွယ်ရမည်-

လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီလီမိတက် - ဦးအောင်ကျော်ဦး

ခေတ္တမန်နေဂျင်းဒါရိုက်တာ

ကုမ္ပဏီလီမိတက်

အမှတ်(၅၅/၆၁)၊ ကမ်းနား

လမ်း၊ဆိပ်ကမ်းမြို့နယ်။

၀၁-၃၇၃၀၁၄၊၀၁-၃၇၂၈၇၉။

၀၁-၃၇၃၀၁၁ (Fax)

EFR Group of Companies (Public)Limited - ဦးအောင်မင်းဟန်

အမှုဆောင်အရာရှိချုပ်

EFR Group of

Companies (Public)

Limited

အမှတ်(၃၉)၊ယူနိုက်တက်

ကွန်ဒို(၂)၊ယောမင်းကြီး

ရပ်ကွက်အလံပြဘုရား

လမ်း၊ဒဂုံမြို့နယ်။

၀၁-၃၈၁၀၁၀၊၀၁-၃၈၁၀၆၆။

၀၁-၃၈၁၆၆၁ (Fax)

၂၉။ **လုပ်ငန်းတာဝန်များ**

(က) **လန်းပြီ၏ လုပ်ငန်းတာဝန်များ**

(၁) လှိုင်သာယာမြို့နယ်၊အောင်ဇေယျတံတားနှင့်ရွှေပြည်သာတံတားအကြားရှိ လစ်လပ်မြေအကျယ်အဝန်း ဧက(၄၀)ခန့်ကို အထက်စာပိုဒ် ၂ ပါ ရည်ရွယ်ချက်အတိုင်း လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိရန်အတွက် သက်ဆိုင်ရာအစိုးရအာဏာပိုင်အဖွဲ့အစည်း၊ ဝန်ကြီးဌာန

အစရှိသည်တို့ထံမှ လိုအပ်သော ခွင့်ပြုမိန့်၊ သဘောတူညီချက်များ၊ လိုင်စင်များ အစရှိသည်တို့ အပြည့်အစုံရရှိရန် **ကူညီဆောင်ရွက်ပေးရမည်။**

(၂) ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်းတည်ထောင်နိုင်ရန်နှင့် လုပ်ငန်း ဆောင်ရွက်နိုင်ရေးအတွက် စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊ ပို့ဆောင်ရေးဝန်ကြီးဌာနစသည့် သက်ဆိုင်ရာ ဝန်ကြီးဌာနများ၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့တို့မှ လိုအပ်သော ခွင့်ပြုမိန့်၊ သဘောတူညီချက်များ၊ လိုင်စင်များရရှိနိုင်ရေး **ကူညီ**ဆောင်ရွက်ပေးရမည်။

(၃) ပြည်ပမှတင်သွင်းမည့် စက်နှင့်စက်ကိရိယာများ၊ ကုန်ကြမ်း ပစ္စည်းများ စသည်တို့အတွက် လိုအပ်သည့်ခွင့်ပြုမိန့်များကို ရယူ **ကူညီ**ဆောင်ရွက်ပေးရမည်။

(၄) ဖက်စပ်ကုမ္ပဏီအတွက် လိုအပ်သော နိုင်ငံခြားသားဝန်ထမ်း၊ ကျွမ်းကျင်သူပညာရှင်များ၊ အလုပ်သမားများအတွက် ပြည်ဝင်ဗီဇာ၊ နေထိုင်ခွင့်နှင့် အလုပ်လုပ်ခွင့်များ ရရှိရေးအတွက် လိုအပ်သည်များကို ကူညီဆောင်ရွက်ပေးရမည်။

(ခ) **EFR ၏ လုပ်ငန်းတာဝန်များ**

(၁) ကုန်သေတ္တာဆိပ်ခံတံတား၊ ကုန်သေတ္တာထားသိုစခန်းတို့ တည်ဆောက်ပြီးနောက် ကုန်ပစ္စည်းထောက်ပံ့ပို့ဆောင်ရေးလုပ်ငန်း၊ ကုန်သေတ္တာများနှင့်ဆက်စပ်သည့် ဝန်ဆောင်မှုလုပ်ငန်းများ၊ ရေကြောင်းမှ ကုန်သေတ္တာများသယ်ယူခြင်း လုပ်ငန်းတို့ ဆောင်ရွက်နိုင်ရန် လိုအပ်သောယာဉ်နှင့်စက်ကိရိယာများ ဝယ်ယူဖြည့်တင်းခြင်းကို ကျခံသုံးစွဲမည့်အပြင် တည်ဆောက်ရေးအတွက် လိုအပ်သည့် ငွေကြေးအရင်းအနှီးနှင့် ကုန်ကျစရိတ် အားလုံးကို ကျခံဆောင်ရွက်သွားပါမည်။

(၂) အထက်အပိုဒ်(၁)ပါ လုပ်ငန်းများ အဆင်ပြေလွယ်ကူချောမွေ့စွာ ဆောင်ရွက်အကောင်အထည်ဖော်နိုင်ရန်အတွက် ပြည်တွင်းပြည်ပမှ တရားဝင်ကုမ္ပဏီဖြစ်စေ၊ တရားဝင်အဖွဲ့အစည်းဖြစ်စေ၊ ငွေကြေးအင်အားတောင့်တင်းသော သို့မဟုတ် နည်းပညာ ပံ့ပိုးမှုပေးနိုင်သော မည်သည့်အဖွဲ့နှင့်မဆို ပူးပေါင်းဆောင်ရွက်သွားပါမည်။

(၃) တည်ဆောက်မှုလုပ်ငန်းကိုလည်းကောင်း၊ စီးပွားဖြစ်လုပ်ငန်း ဆောင်ရွက်ရာတွင် လည်းကောင်း၊ ဝန်ဆောင်ခ ကောက်ခံရယူရာတွင်လည်းကောင်း၊ ဈေးကွက်ရှာဖွေခြင်း၊ တိုးချဲ့ခြင်းတို့ ဆောင်ရွက်ရာတွင်လည်းကောင်း ဦးစီးဦးဆောင်ပြု၍ ဆောင်ရွက်သွားပါမည်။

၃၀။ **သတိပေးချက်(လျှို့ဝှက်ကိစ္စနှင့် သတင်းမီဒီယာ)**

(က) ဤစာချုပ်ပါ စီမံကိန်းလုပ်ငန်းများသည် လျှို့ဝှက်ထိန်းသိမ်းရန်ကိစ္စများဖြစ်သဖြင့် လန်းပြီနှင့် EFR တို့က မိမိတို့၏ကုမ္ပဏီအဖွဲ့အစည်းများမှတာဝန်ရှိသူများ၊တာဝန်ပေးအပ်ခြင်းခံရသူများ၊တစ်ဆင့်အပ်နှံသော လုပ်ငန်းဆောင်ရွက်သူများ၊ ကန်ထရိုက်တာများ၊ ၎င်းတို့၏ ဝန်ထမ်းများက လျှို့ဝှက်စွာ ထိန်းသိမ်းထားရန်နှင့် လုပ်ငန်းသဘာဝအလျောက်ဖြစ်စေ၊ ဥပဒေအရဖြစ်စေ လိုအပ်ချက်မှလွဲ၍ မည်သည့်ပုဂ္ဂိုလ် အဖွဲ့အစည်းများသို့ တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်သောနည်းဖြင့်ဖြစ်စေ အသိပေးခြင်း၊ ထုတ်ဖော်ပြသခြင်း မပြုရပါ။

(ခ) စီမံကိန်းလုပ်ငန်းနှင့်ပတ်သက်၍ သတင်းမီဒီယာသို့ထုတ်ဖော်ပြောဆိုခွင့်ရှိသော ဝန်ထမ်း သို့မဟုတ် တာဝန်ရှိသူတစ်ဦးဦးကို ဖက်စပ်ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့က စည်းကမ်းသတ်မှတ်ချက်ဖြင့် တာဝန်ပေးရမည်။

(ဂ) လုပ်ငန်းဖျက်သိမ်းပြီး နှစ်နှစ်အထိသာ အကျိုးသက်ရောက်စေရ မည်။

၃၁။ **ဖက်စပ်သဘောတူစာချုပ် အကျိုးသက်ရောက်မည့်နေ့ရက်**

ဤဖက်စပ်သဘောတူစာချုပ်သည်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ခွင့်ပြုချက်ရရှိပြီးနောက် နှစ်ဦးသဘောတူ လက်မှတ်ရေးထိုးပြီးသည့်နေ့တွင် စတင်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၃၂။ **စာချုပ်၏နောက်ဆက်တွဲများ**

ဤဖက်စပ်သဘောတူစာချုပ်၌ ပါရှိသော နောက်ဆက်တွဲပုံစံများသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

၃၃။ **အထွေထွေ**

ဤစာချုပ်လက်မှတ်ရေးထိုးခြင်းမပြုမီ နှစ်ဦးနှစ်ဘက်ယခင်ကနားလည်မှုများ ရှိခဲ့လျှင် ဤစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ပျက်ပြယ်သည်ဟု မှတ်ယူရမည်။ ဤစာချုပ်တွင်ပါရှိသော အချက်အလက်များသည် ယခင်ကချုပ်ဆိုနားလည်မှုများ နှင့် ဆန့်ကျင်ကွဲလွဲမှုများ ရှိနေပါလျှင် ဤဖက်စပ်စာချုပ်ပါ ပြဋ္ဌာန်းချက်များက လွှမ်းမိုးရမည်။

ဤဖက်စပ်သဘောတူစာချုပ်ကို ရန်ကုန်မြို့တွင် -------------- ခုနှစ်၊ -----------------လ(----------) ရက်နေ့တွင် စာချုပ်ဝင်နှစ်ဦးနှစ်ဘက်မှ မိမိတို့

လွတ်လပ်သော သဘောဆန္ဒများနှင့်အညီ အောက်ပါအသိသက်သေများရှေ့တွင် လက်မှတ်ရေးထိုးကြပါသည်။

| | |
|---|---|
| လက်မှတ် - | လက်မှတ် - |
| အမည် - ဗိုလ်ချုပ်ခင်မောင်သန်း | အမည် - ဦးကျော်လွင်ဦး |
| ရာထူး - ဥက္ကဋ္ဌ | ရာထူး - ဥက္ကဋ္ဌ |
| မှတ်ပုံတင် - ၁၂/မလမ(နိုင်)၁၁၁၃၅၅ | မှတ်ပုံတင် - ၁၂/ကမရ(နိုင်)ဂဂ၉၂၂၂ |
| လိပ်စာ - ရန်ကုန်တိုင်း၊ဆိပ်ကမ်း အလံပြဘုရားလမ်း၊ ယူနိုက်တက် | လိပ်စာ -ယောမင်းကြီးရပ်ကွက်၊ မြို့နယ်၊ ကမ်းနားလမ်း၊ အမှတ် (၅၅/၆၁) အမှတ်(၃၉)၊ ကွန်ဒို (၂) |

**အသိသက်သေများ**

| | |
|---|---|
| လက်မှတ် - | လက်မှတ် - |
| အမည် - ဦးအောင်ကျော်ဦး | အမည် - ဦးအောင်မင်းဟန် |
| ရာထူး - ခေတ္တမန်နေဂျင်းဒါရိုက်တာ | ရာထူး - အမှုဆောင်အရာရှိချုပ် |
| မှတ်ပုံတင်- ၁၂/မဂဒ(နိုင်)ဂ၁ဂ၅၇၇ | မှတ်ပုံတင် - ၁၂/မဂတ(နိုင်)ဂ၇၄၄၂၉ |
| လိပ်စာ - ရန်ကုန်တိုင်း၊ဆိပ်ကမ်း | လိပ်စာ -ရန်ကုန်မြို့၊ယောမင်းကြီး မြို့နယ်၊ ကမ်းနားလမ်း၊ ရပ်ကွက်၊အလံပြဘုရား အမှတ် (၅၅/၆၁) |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
## မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

**No. 10, Pansodan Street, Yangon, Myanmar. Tel: (95-1) 379141, 246375, 387116 Fax: (95-1) 391355, 384737.**
**P.O. Box. No. 1, Email: mpa@mptmail.net.mm, http://www.mpa.gov.mm**


စာအမှတ်၊ဆက/မြို့ပြ(HITL)/ ၂၂၇ /၂၀၁၈

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မတ် လ ၂၈ ရက်

အကြောင်းအရာ။ **ပဋိညာဉ်စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း) တို့အား ပေးပို့ခြင်း။**

ရည် ညွှန်း ချက် ။ Hlaing Inland Terminal and Logistics Co., Ltd ၏ ၁၃.၃.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ ၁၈/စီမံကိန်း/၀၃၁၈/၀၀၉

၁။ E.F.R Group of Companies(Public)နှင့် လန်းပြီပင်လယ်ရေကြောင်းကုမ္ပဏီတို့ အကျိုးတူ ပူးပေါင်း၍ Hlaing Inland Terminal and Logistics Co., Ltd ကို ဖွဲ့စည်းကာ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ ယောအတွင်းဝန်ဦးဖိုးလှိုင်လမ်း၊ မြေကွက်အမှတ် ၁၅/၁-B ရှိ မြေဧရိယာ(၄၀)ဧကကို ကျောထောက်နောက်ခံပြု၍ လှိုင်မြစ်ကမ်းနဖူးတွင် ကုန်သေတ္တာကိုင်တွယ်နိုင်သည့် ခေတ်မီကွန်ကရစ်ဆိပ်ခံတံတားတည်ဆောက်ပြီး နောက်ခံမြေတွင် ထောက်ပံ့သယ်ယူပို့ဆောင်ရေးနှင့် ကုန်သိုလှောင်ရေးစခန်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြထားပါသည်။

၂။ ထိုသို့ Hlaing Inland Terminal and Logistics Co., Ltd မှ အဆိုပြုချက်တင်ပြခဲ့ရာတွင် လှိုင်မြစ်ကမ်းနဖူးရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် ရေဒေသတွင် ကမ်းရိုးတန်းနှင့် ပြည်တွင်းသွားရေယာဉ်များ ဆိုက်ကပ်နိုင်မည့် ခေတ်မီဆိပ်ခံတံတားကို တည်ဆောက်ပြီး BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါ၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Hlaing Inland Terminal and Logistics Co., Ltd အကြား ပဋိညာဉ်စာချုပ် ချုပ်ဆိုရန် လိုအပ်ပါသောကြောင့် ၎င်းတို့ပြုစုထားသည့် စာချုပ်(မူကြမ်း)အပေါ် လမ်းညွှန်မှုပြုနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် လျှောက်ထားလာပါသည်။

၃။ သို့ဖြစ်ပါ၍ Hlaing Inland Terminal and Logistics Co., Ltd မှ ဆိပ်ကမ်းနယ်နိမိတ်အတွင်းကျရောက်လျက်ရှိသော လှိုင်မြစ်ကမ်းနဖူးတွင် ကုန်သေတ္တာနှင့်အထွေထွေကုန်စည် ကိုင်တွယ်နိုင်သော ကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက်ပြီး BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန် အတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Hlaing Inland Terminal and Logistics Co., Ltd

တို့အကြား ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (မူကြမ်း)နှင့် မြေငှားစာချုပ် (မူကြမ်း)တို့ကို ပြုစုပြီး **နောက်ဆက်တွဲ(က)**ပါအတိုင်း ပေးပို့ပါသည်။

၄။ အကယ်၍ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ အဆိုပါ ပဋိညာဉ်စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့အပေါ် စိစစ်ပြီး ပြင်ဆင်ဖြည့်စွက်ရန် အချက်များရှိပါက ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အကြံပြုချက်တို့နှင့်အညီ ပြန်လည်ပြင်ဆင်ဖြည့်စွက်ပြီးမှ ပဋိညာဉ်စာချုပ်နှင့် မြေငှားစာချုပ်တို့ကို ချုပ်ဆိုသွားမည်ဖြစ်ပါကြောင်း အကြောင်းကြားပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး (ကိုယ်စား)
စိုးသိန်း၊ အင်ဂျင်နီယာချုပ်(မြို့ပြ)

**ဦးအောင်မင်းဟန်**

**မန်နေဂျင်းဒါရိုက်တာ**

**Hlaing Inland Terminal and Logistics Co., Ltd**

# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန

# မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

# Hlaing Inland Terminal and Logistics Co., Ltd

တို့အကြား

ဆိပ်ကမ်းနယ်နိမိတ်အတွင်းကျရောက်လျက်ရှိသော

ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊

ရွှေလင်ပန်းစက်မှုဇုန်ရှိ လှိုင်မြစ်ကမ်းနဖူးတွင်

ကုန်သေတ္တာနှင့် အထွေထွေကုန်စည် ကိုင်တွယ်နိုင်သော

ကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက်ပြီး BOT စနစ်ဖြင့်

လုပ်ငန်းဆောင်ရွက်ရန်အတွက်

ချုပ်ဆိုသည့်

ပဋိညာဉ်စာချုပ်(မူကြမ်း)

# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန

# မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

# Hlaing Inland Terminal and Logistics Co., Ltd

တို့အကြား

ဆိပ်ကမ်းနယ်နိမိတ်အတွင်းကျရောက်လျက်ရှိသော
ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊
ရွှေလင်ပန်းစက်မှုဇုန်ရှိ လှိုင်မြစ်ကမ်းနဖူးတွင်
ကုန်သေတ္တာနှင့် အထွေထွေကုန်စည် ကိုင်တွယ်နိုင်သော
ကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက်ပြီး BOT စနစ်ဖြင့်
လုပ်ငန်းဆောင်ရွက်ရန်အတွက်
ချုပ်ဆိုသည့်
ပဋိညာဉ်စာချုပ် (မူကြမ်း)

နှင့်

မြေငှားစာချုပ် (မူကြမ်း)

၂၀၁၈ ခုနှစ်၊ လ (   ) ရက်

**ဆိပ်ကမ်းနယ်နိမိတ်အတွင်းကျရောက်လျက်ရှိသော ရန်ကုန်တိုင်းဒေသကြီး၊**

**လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်ရှိ လှိုင်မြစ်ကမ်းနဖူးတွင် ကုန်သေတ္တာနှင့်**

**အထွေထွေကုန်စည် ကိုင်တွယ်နိုင်သော ကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက်ပြီး BOT**

**စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Hlaing Inland**

**Terminal and Logistics Co., Ltd တို့အကြား ချုပ်ဆိုသည့်**

**ပဋိညာဉ်စာချုပ် (မူကြမ်း)**

ဤပဋိညာဉ်စာချုပ် (နောင်တွင် "စာချုပ်" ဟု ရည်ညွှန်းခေါ်ဆိုမည်) ကို ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တွင် ၂၀၁၈ ခုနှစ်၊ -------------- လ (       ) ရက်နေ့၌

**ဦးနီအောင်**၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန လက်အောက်ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် (ဤမှနောင်တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်ဟု မှတ်ယူရမည်) က တစ်ဖက်

နှင့်

**ဦးအောင်မင်းဟန်**၊ မန်နေဂျင်းဒါရိုက်တာ၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ်၊ ၁၂/မဂတ (နိုင်) ၀၇၄၄၂၉ ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသော ကုမ္ပဏီဖြစ်ပြီး ရန်ကုန်မြို့၊ ဒဂုံမြို့နယ်၊ ယောမင်းကြီးရပ်ကွက်၊ အလံပြဘုရားလမ်း၊ ယူတိုက်တက်ကွန်ဒိုတာဝါ(၁)၊ အခန်းအမှတ်(၄၀၆)၊ အမှတ်(၃၉) တွင် တည်ရှိသည့် ကုမ္ပဏီဖြစ်သည့် **Hlaing Inland Terminal and Logistics Co., Ltd** (ဤမှနောင်တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ဆက်ခံသူများ၊ တရားဝင် ကိုယ်စားလှယ်များနှင့် ဥပဒေအရ

လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်) က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

(က) “လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ”က “လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ” သို့ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်ရှိ မြေကွက်အမှတ် ၁၅/၁-B မြေနေရာကို ကျောထောက်နောက်ခံပြ၍ ပူးတွဲ( )တွင် အနီရောင်ဖြင့် ဘောင်ခတ်ထားသော လှိုင်မြစ်ကမ်းနဖူးရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စီရင်ပိုင်ခွင့်ရှိသော ရေဒေသဧရိယာ ၁၁၆၄၁၀ စတုရန်းပေ (၁၀၈၁၄ စတုရန်းမီတာ = ၂.၆၇ ဧက) (နောင်တွင် “ငှားရမ်းသည့်မြေ” ဟု ရည်ညွှန်းခေါ်ဆိုမည်) ကို ဤစာချုပ် အပိုဒ်-၁၄ ပါ သတ်မှတ်ချက်နှင့်အညီ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလသက်တမ်းနှင့် မြေငှားကာလသက်တမ်းကို ဤစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ နှစ်ပေါင်း (၅၀)နှစ်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ်သက်တမ်းတိုးမြှင့်ခွင့် တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် (၂)ကြိမ် တိုးမြှင့်ခွင့်ပြုနိုင်ရန် သဘောတူညီသဖြင့် လည်းကောင်း၊

(ခ) “လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ” သည် “ငှားရမ်းသည့်မြေ” ကို ဥပဒေအရတရားဝင် ပိုင်ဆိုင်ခွင့်ရှိကြောင်း ကိုယ်စားပြုအာမခံချက်ပေးသဖြင့် လည်းကောင်း၊

(ဂ) “ငှားရမ်းသည့်မြေ” တွင် “လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ” အား ကုန်သေတ္တာနှင့် အထွေထွေကုန်စည် ကိုင်တွယ်နိုင်သော ဆိပ်ခံတံတားနှင့် လုပ်ငန်းသဘာဝအရ ဆက်စပ်နေသည့် အခြားအသုံးဆောင်များ (ဤမှနောင်တွင် **“Hlaing Inland Terminal”** ဟု ရည်ညွှန်းခေါ်ဆိုမည်) ကို “ငှားရမ်းသည့်မြေ” နေရာတွင် ဆိပ်ခံတံတားနှင့် ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းကို BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုနိုင်ရေးအတွက် သဘောတူညီသဖြင့် လည်းကောင်း၊

ဤပဋိညာဉ်စာချုပ်ကို နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူချုပ်ဆိုပါသည်-

## အပိုဒ်-၁။ အဓိပ္ပါယ်ဖော်ပြချက်

၁။ ဤပဋိညာဉ် စာချုပ်တွင်ပါရှိသော အောက်ဖော်ပြပါစကားရပ်များသည် ဖော်ပြပါ အတိုင်း အဓိပ္ပါယ်သက်ရောက်စေရမည်-

(က) "မြေငှားရမ်းခနှုန်းထားများ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်အပိုဒ်-၆ တွင် ဖော်ပြထားသော လစဉ်မြေငှားခများကို ဆိုလိုသည်။

(ခ) "ဆိပ်ကမ်းသုံးစွဲခနှုန်းထားများ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ် အပိုဒ်-၁၂ (ခ) တွင် ဖော်ပြထားသော နှုန်းထားများကိုဆိုလိုသည်။

## အပိုဒ်-၂။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၂။ နှစ်ဖက်စာချုပ်ဝင်အသီးသီးသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရား ဥပဒေများအရဖွဲ့စည်းထား၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိ သူများဖြစ်ပြီး၊ ၎င်းတွင် ဤပဋိညာဉ်စာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်အာဏာ၊ ခိုင်မာသောဘဏ္ဍာရေးရပ်တည်မှုနှင့် အခွင့်အာဏာရှိသူဖြစ်ကြောင်း ကိုယ်စားပြုအာမခံချက် ပေးပါသည်။

## အပိုဒ်-၃။ ဆောင်ရွက်ရမည့်လုပ်ငန်းပုံစံ

၃။ ဆောင်ရွက်ရမည့် လုပ်ငန်းပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က "ငှားရမ်းသည့်မြေ" အား "လုပ်ငန်းလုပ်ကိုင် ခွင့်ရသူ" ထံသို့ ငှားရမ်းရန် နှစ်ဦးနှစ်ဖက်သဘောတူညီသည့် စည်းကမ်းချက် များပါရှိသော "မြေငှားစာချုပ်" ကို ချုပ်ဆိုရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ကိုယ်တိုင်ဖြစ်စေ၊ ၎င်း၏ဝန်ထမ်းများဖြင့် ဖြစ်စေ၊ ကိုယ်စားတာဝန်လွှဲအပ်သူများဖြင့်ဖြစ်စေ၊ ပူးတွဲ(  )တွင် ဖော်ပြထား သည့်အတိုင်း **"Hlaing Inland Terminal"** ကို တည်ဆောက် အကောင် အထည်ဖော်ရမည် ဖြစ်ပြီး၊ ငှားရမ်းကာလအတွင်း ယင်းနှင့် သက်ဆိုင်သော လုပ်ငန်းများကို ဆောင်ရွက်ခြင်း၊ စီမံခန့်ခွဲခြင်း ပြုလုပ်ရမည်။

**အပိုဒ်-၄။ ကြိုတင်စည်းကမ်းချက်များ**

၄။ ဤပဋိညာဉ်စာချုပ်ကို ဆောင်ရွက်ရန်နှင့် အကောင်အထည်ဖော်ရန် အလို့ငှာ၊ စာချုပ်ချုပ်ဆိုသူနှစ်ဦးတို့သည် အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်-

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် သက်ဆိုင်ရာ အာဏာပိုင်အဖွဲ့အစည်းများ၏ သဘောတူခွင့်ပြုချက်နှင့်အညီ "ငှားရမ်းသည့်မြေ" ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ထံ "မြေငှားစာချုပ်" ပါ စည်းကမ်းချက်များအရ အငှားချထားပေးရမည်၊

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် "ငှားရမ်းသည့်မြေ" အား အပေါင်အနှံ၊ ရရန် ပိုင်ခွင့်နှင့် အခြားတောင်းဆိုပိုင်ခွင့်မှန်သမျှ လုံးဝမပါရှိစေဘဲ၊ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ထံ လက်ရောက်လွှဲပြောင်းပေးရမည်။

**အပိုဒ်-၅။ ပေးချေရမည့် မြေအသုံးချမှု ပရီမီယံကြေး**

၅။ **"Hlaing Inland Terminal"** ကို အကောင်အထည်ဖော် တည်ဆောက်ကာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုခြင်းအတွက် "ငှားရမ်းသည့်မြေ" နှင့်ပတ်သက်၍ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"က "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"ထံ အောက်ပါအတိုင်း မြေအသုံးချမှုပရီမီယံကြေးကို ပေးချေရမည်-

(က) "ငှားရမ်းသည့်မြေ"ကို မြေငှားစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ အငှားချထားမှုအတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ငွေကျပ် ၁၅,၀၀၀,၀၀၀ (ကျပ် တစ်ဆယ့်ငါးသန်း တိတိ) နှုန်းဖြင့် စုစုပေါင်းငွေကျပ် ၄၀,၀၅၀,၀၀၀/ (ငွေကျပ် သန်းလေးဆယ့် ငါးသောင်း တိတိ)ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" က "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ အောက်ပါအတိုင်း ပေးသွင်းရမည်-

(၁) စာချုပ်လက်မှတ်ရေးထိုးပြီး ၁(တစ်)လအတွင်း ကျပ် ၂၀,၀၂၅,၀၀၀/- (ကျပ်သန်း နှစ်ဆယ်နှင့် နှစ်သောင်းငါးထောင် တိတိ) ကို ပထမအရစ် အဖြစ် ပေးသွင်းရန်၊

(၂) စာချုပ် လက်မှတ်ရေးထိုးပြီး ၁၂ (တစ်ဆယ့်နှစ်) လ အတွင်း ကျပ် ၂၀,၀၂၅,၀၀၀/- (ကျပ်သန်း နှစ်ဆယ်နှင့် နှစ်သောင်းငါးထောင် တိတိ) ကို ဒုတိယရစ်အဖြစ် ပေးသွင်းရန်၊

(ခ) အထက်ပါ သတ်မှတ်ချက်အတိုင်း မြေအသုံးချမှုပရီမီယံကြေး ပေးဆောင်ရန် ပျက်ကွက်ပါက ဤစာချုပ်၏ အပိုဒ် ၁၅ (ခ) အရ စာချုပ်ကို ရပ်စဲနိုင်သည်။

**အပိုဒ်-၆။ ပေးချေရမည့် မြေငှားရမ်းခနှုန်းထားများ**

၆။ **"Hlaing Inland Terminal"** ကို တည်ဆောက်ရန်အတွက် "ငှားရမ်းသည့်မြေ" နှင့်ပတ်သက်၍ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"က လစဉ်မြေငှားရမ်းခအဖြစ်ငွေကျပ် ၅,၄၀၇,၀၀၀/- (ကျပ် ငါးဆယ့်လေးသိန်း ခုနစ်ထောင် တိတိ) ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ ပေးချေရမည်-

ဆိပ်ခံတံတားအတွက် မြေငှားရမ်းခ ၂.၆၇ ဧက = ကျပ် ၅,၄၀၇,၀၀၀/-
(၁၀၈၁၄ စတုရန်းမီတာ x ၅၀၀ိ/-)

(က) သက်ဆိုင်ရာ ဘဏ္ဍာရေးနှစ်အတွက် ကျသင့် မြေငှားရမ်းခကို ၃(သုံး)လ တစ်ကြိမ် ပေးချေရပါမည်။

(ခ) အထက်ပါသတ်မှတ်ချက်အတိုင်း မြေငှားရမ်းခပေးဆောင်ရန် ပျက်ကွက်ပါက ဒါဏ်ကြေးပေးဆောင်ရမည့်အပြင် ဤစာချုပ်၏ အပိုဒ် ၁၅(ခ)ပါ သတ်မှတ်ချက် အတိုင်း စာချုပ်ကို ရပ်စဲနိုင်သည်။

**အပိုဒ်-၇။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တာဝန်များ**

၇။ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် ဤစာချုပ်အလို့ငှာ သက်ဆိုင်ရာအာဏာပိုင်အဖွဲ့အစည်းများထံမှ လိုအပ်သော ခွင့်ပြုချက်များရရှိစေရန် တတ်နိုင်သမျှ ကူညီဆောင်ရွက်ပေးရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များရရှိစေရန် တတ်နိုင်သမျှ ကူညီဆောင်ရွက်ပေးရမည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် ဤစာချုပ်ပူးတွဲ( )တွင် ဖော်ပြထားသည့် လုပ်ငန်းများကို ပူးတွဲ( )တွင်ဖော်ပြထားသော ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်ဖြင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ "ငှားရမ်းသည့်မြေ" တွင် ငြိမ်သက်စွာနှင့် အေးငြိမ်းစွာဝင်ရောက်၍ လုပ်ငန်းဆောင်ရွက်စီမံခန့်ခွဲနိုင်ခွင့် ပြုရမည်။

(ဃ) ဤစာချုပ်တွင် ပါဝင်လက်မှတ်ရေးထိုးသူများအနေဖြင့် ဆိပ်ကမ်းအခွန်အခများနှင့်စပ်လျဉ်း၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က သတ်မှတ်ထားသည့် တည်ဆဲအခွန်အခနှုန်းထားများနှင့်အညီကောက်ခံရမည်။ ဆိပ်ကမ်းအခွန်အခအားလုံးကို လိုအပ်ချိန်တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က ပြင်ဆင်သတ်မှတ်သည့် အတိုင်းလိုက်နာဆောင်ရွက်ရမည်။ ဆိပ်ကမ်းအခွန်အခနှုန်းထားကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ကသာ အမြဲတမ်းထိန်းချုပ်သတ်မှတ်မည်။

**အပိုဒ်-၈။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ တာဝန်များ**

၈။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်သည်-

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ဤပဋိညာဉ်စာချုပ် အပိုဒ်(၅)နှင့်အပိုဒ်(၆) ပါ သတ်မှတ်ချက်အတိုင်း မြေအသုံးချမှုပရီမီယံကြေးနှင့် လစဉ်မြေငှားရမ်းခများကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ ပေးသွင်းရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် **"Hlaing Inland Terminal"** တွင် ပါဝင်သောဆိပ်ခံတံတားကို သတ်မှတ်ထားသောစံနှုန်းများနှင့်အညီ ဤပဋိညာဉ်

စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ အပိုဒ်(၁၀)ပါသတ်မှတ် ကာလအတွင်း အပြီး တည်ဆောက်ရမည်။

(ဂ) ခေတ်မီဆိပ်ခံတံတား တည်ဆောက်ရာတွင်လည်းကောင်း၊ တံတားပေါ်တွင် ကုန်ကိုင်တွယ် စက်ကိရိယာများနှင့် ယန္တရားများ တပ်ဆင်အသုံးပြုရာတွင် လည်းကောင်း သတ်မှတ် စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်သွားရမည်။

(ဃ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ဤသဘောတူစာချုပ် လက်မှတ်ရေးထိုး ချုပ်ဆိုခြင်းအတွက် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို ပေးဆောင်ရန်တာဝန်ရှိ ပြီး၊ လုပ်ငန်းစီမံကိန်းတည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စီမံ အုပ်ချုပ်ခြင်းအတွက် ပေါ်ပေါက်လာမည့်ကျသင့်သော အခွန်အခအားလုံးကို ပေးဆောင်ရမည်။

(င) ၂၀၁၅ ခုနှစ်၊ ဧပြီလ(၉)ရက်နေ့က ပြဋ္ဌာန်းခဲ့သော မြန်မာ့ဆိပ်ကမ်းအာဏာပိုင် ဥပဒေနှင့် ဆက်လက်ပြဋ္ဌာန်းမည့်နည်းဥပဒေများ၊ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က အခအားလျှော်စွာထုတ်ပြန်သည့် အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်ရမည်။

(စ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် **"Hlaing Inland Terminal"** ကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင် ထိခိုက်မှု လေ့လာအကဲဖြတ်ချက် (Environmental Impact Assessment-EIA) နှင့် လူမှုပတ်ဝန်းကျင် ထိခိုက်မှုလေ့လာအကဲဖြတ်ချက် (Social Impact Assessment-SIA) တို့နှင့်ပတ်သက်၍ ဆောင်ရွက်မည့်အစီအစဉ်များ (Environmental Management Plan) ကို ဤပဋိညာဉ်စာချုပ် လက်မှတ် ရေးထိုးပြီး ၆(ခြောက်)လအတွင်းရေးဆွဲ၍ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ တင်ပြရမည်။ ထို့အပြင် မီးဘေးအန္တရာယ်ကာကွယ်ရေး၊ တားဆီးရေးအစီအမံ များစနစ်တကျဆောင်ရွက်ထားရှိရမည်။

### အပိုဒ်-၉။ ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်

၉။ **"Hlaing Inland Terminal"** ၏ ခန့်မှန်းကုန်ကျစရိတ်မှာ ပူးတွဲ( )ဖြင့် ဖော်ပြထားသည့်အတိုင်း ရင်းနှီးမြှုပ်နှံလျှက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ ပြည်တွင်းသုံးငွေကျပ် ( ) သန်း (ကျပ်သန်း ) ဖြစ်သည်။

### အပိုဒ်-၁၀။ တည်ဆောက်ရေးကာလ

၁၀။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် **"Hlaing Inland Terminal"** ကို အောက်ပါလုပ်ငန်းစီမံကိန်းအဆင့်လိုက် ပြီးစီးအောင်ဆောင်ရွက်ရမည်။

(က) **"Hlaing Inland Terminal"** တည်ဆောက်ရေး လုပ်ငန်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီးနောက် ဤပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ၂(နှစ်)နှစ် အတွင်း ပြီးမြောက်အောင်ဆောက်လုပ်ရမည်။

(ခ) **"Hlaing Inland Terminal"** ပါ ဆိပ်ခံတံတား တည်ဆောက်ရေးလုပ်ငန်းများကို မမျှော်မှန်းထားခဲ့သည့် အကြောင်းတစ်စုံတစ်ရာကြောင့် သတ်မှတ်ကာလအတွင်း တည်ဆောက်မှုလုပ်ငန်းများ မပြီးပြတ်ပါက တည်ဆောက်ရေးကာလ သက်တမ်းတိုးမြှင့်မှုကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ဖြင့် သက်တမ်းတိုးမြှင့်၍ဆောင်ရွက်နိုင်သည်။

### အပိုဒ်-၁၁။ လုပ်ငန်းအကောင်အထည်ဖော်ရန်တာဝန်ယူသည့် ဘဏ်အာမခံ

၁၁။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ဤပဋိညာဉ်စာချုပ်ချုပ်ဆိုပြီးနောက် ရက်ပေါင်း ၄၅ (လေးဆယ့်ငါး)ရက်အတွင်း ပူးတွဲ( )တွင် သတ်မှတ်ထားသောပုံစံဖြင့် ကြိုတင်စည်းကမ်းချက်များမရှိသည့် ပြန်လည်ရုတ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်းအကောင်အထည်ဖော်ရန်တာဝန်ယူသည့် ဘဏ်အာမခံဖြစ်သော ဤပဋိညာဉ်စာချုပ်၏ အပိုဒ်(၉)တွင် ဖော်ပြထားသည့် ခန့်မှန်းရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ ၁(တစ်)ရာခိုင်နှုန်းနှင့်ညီမျှသော ငွေပမာဏ

ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" အမည်ဖြင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အတွင်းရှိ တရားဝင်ခွင့်ပြုထားသော အစိုးရဘဏ်တစ်ခုခုတွင်ထားရှိ၍ အဆိုပါဘဏ်အာမခံကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံသို့ ထုတ်ပေးရမည်။ အဆိုပါ ဘဏ်အာမခံ၏ သက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ ၃(သုံး) နှစ်အထိတည်ရှိစေရမည်။ "လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ" သည် စာချုပ်လက်မှတ်ရေးထိုးပြီး အပိုဒ် (၁၀)ပါ သတ်မှတ်တည်ဆောက်ရေးကာလအတွင်း **"Hlaing Inland Terminal"** ပါဆိပ်ခံတံတားကိုအပြီး ဆောက်လုပ်ရန် အပါအဝင် စာချုပ်စည်းကမ်းများကိုလိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က သိမ်းယူရမည်။

(ရင်းနှီးမြှုပ်နှံမှုငွေပမာဏအတွက် ပူးတွဲ(　　)တွင် သတ်မှတ်ထားသော ပုံစံအတိုင်း ပေးသွင်းရန်ဖြစ်ပါသည်။)

**အပိုဒ်-၁၂။ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စီမံအုပ်ချုပ်ခြင်း**

၁၂။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စီမံအုပ်ချုပ်ခြင်း အလို့ငှာ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်-

(က) **"Hlaing Inland Terminal"** ပါ ဆိပ်ခံတံတားကို ပဋိညာဉ် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ အပိုဒ်(၁၀)ပါသတ်မှတ်ကာလအတွင်း အပြီးတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်ရမည်။

(ခ) ဤပဋိညာဉ်စာချုပ်တွင် ပါဝင်လက်မှတ်ရေးထိုးသူများအနေဖြင့် ဆိပ်ကမ်းအခွန်အခများနှင့်စပ်လျဉ်း၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က သတ်မှတ်ထားသည့် တည်ဆဲအခွန်အခနှုန်းထားများနှင့်အညီ ကောက်ခံရမည်။ ဆိပ်ကမ်းအခွန်အခအားလုံးကို လိုအပ်ချိန်တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က ပြင်ဆင်သတ်မှတ်သည့်အတိုင်း လိုက်နာဆောင်ရွက်ရမည်။ ဆိပ်ကမ်းအခွန်အခနှုန်းထားကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ကသာ အမြဲတမ်းထိန်းချုပ်သတ်မှတ်မည်။

## အပိုဒ်-၁၃။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု

၁၃။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုအတွက် အောက်ပါတို့ကို တာဝန်ယူဆောင်ရွက်ရမည်-

(က) လုပ်ငန်းစီမံကိန်းနယ်မြေနှင့် ၎င်းနယ်မြေတစ်ဝိုက်တွင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး၊

(ခ) လေထု၊ ရေထုနှင့် မြေထုများ၊ ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှုမရှိအောင် ထိန်းသိမ်းရေး၊

(ဂ) လုပ်ငန်းစီမံကိန်းနေရာအား သဘာဝပတ်ဝန်းကျင်နှင့် လိုက်လျောညီထွေဖြစ်အောင် ထိန်းသိမ်းနိုင်ရန်၊ ရေဆိုးနှင့်စွန့်ပယ်ပစ္စည်းများ ထိန်းသိမ်းသည့် စက်ကရိယာများ တပ်ဆင်မှုအပါအဝင် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရေးအတွက် လိုအပ်သောအစီအမံများကို တည်ဆဲဥပဒေ၊ နည်းဥပဒေများနှင့်အညီ ချမှတ်ဆောင်ရွက်ရမည်။

(ဃ) သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေးနှင့်ပတ်သက်၍ ဤပဋိညာဉ်စာချုပ် အပိုဒ်-၈ (စ) နှင့်အညီ ဆောင်ရွက်ထားရမည်။

## အပိုဒ်-၁၄။ ပဋိညာဉ်စာချုပ်သက်တမ်းနှင့် စတင်အကျိုးသက်ရောက်သည့်နေ့

၁၄။ ဤပဋိညာဉ်စာချုပ်သည် ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်အကျိုးသက်ရောက်စေရမည်။ ဤပဋိညာဉ်စာချုပ်အား စာချုပ်ဝင်နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်ရေတွက်ရမည်ဖြစ်ပြီး၊ ပဋိညာဉ်စာချုပ်သက်တမ်းကာလနှင့် လုပ်ငန်းလုပ်ကိုင်ခွင့်ကာလမှာ ကနဦးနှစ်ပေါင်း ၅၀ (ငါးဆယ်)နှစ်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ်သက်တမ်းတိုးမြှင့်ခြင်းကို သက်တမ်းတစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့်(၂)ကြိမ် တိုးမြှင့်ခွင့်ပြုနိုင်သည်။

### အပိုဒ်-၁၅။ ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း

၁၅။ ဤပဋိညာဉ်စာချုပ်ကို အောက်ပါအကြောင်း တစ်ရပ်ရပ်ပေါ်ပေါက်ပါက ရပ်စဲနိုင်သည်-

(က) လုပ်ငန်းကြီးမားစွာ ဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) ဤစာချုပ်ပါတာဝန်များနှင့် စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က ဆောင်ရွက်ရန်ပျက်ကွက်ခြင်း၊ အဆိုပါပျက်ကွက်မှုအတွက် ပျက်ကွက်ခြင်းမရှိသည့် စာချုပ်ဝင်မှကုစားပေးရန် အကြောင်းကြားစာပေးပို့သည့်နေ့မှ ရက်ပေါင်း ၉၀(ကိုးဆယ်)အတွင်း ပျက်ကွက်သူက ကုစားပေးရန် ပျက်ကွက်ခြင်း။

(ဂ) ကြိုတင်၍ မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းလည်းမပြုနိုင်သော မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များသည် တစ်ဆက်တည်း(၆)လထက် ကျော်လွန်ဖြစ်ပွားခြင်း၊

(ဃ) လုပ်ငန်း၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း၊

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း၊

(စ) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

### အပိုဒ်-၁၆။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၁၆။ (က) မလွန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင်၊ နိုင်ငံတော်အစိုးရ၏ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင်

တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့်ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကိုထိခိုက်ဆုံးရှုံးစေလျှင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သို့ နစ်နာဆုံးရှုံးမှုအတွက် လျှော်ကြေးတောင်းခံခွင့်မရှိစေရ။

(ခ) ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ(၁၄)ရက်အတွင်"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သို့ ချက်ချင်းစာဖြင့်ရေးသား အကြောင်းကြားရမည်။ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ် မြောက်ပြီး ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်များ ပျက်ကွက်ခြင်း၊ နှောင့်နှေးကြန့်ကြာခြင်းသည် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဖြစ်ပါကကင်းလွတ်ခွင့်ပြုရမည်။

**၁၇။ လုပ်ငန်းဆောင်ရွက်သည့်မြေသို့ ပြန်လည်ဝင်ရောက်ခွင့်**

၁၇။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က ယင်းကဲ့သို့ ပျက်ကွက်မှုများကိုပြုပြင်ရန်(သို့မဟုတ်) လိုက်နာရန် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သို့ အကြောင်းကြားစာပေးပို့ပြီးနောက် ရက်ပေါင်း ၉၀ (ကိုးဆယ်)အတွင်း လိုက်နာမှုမရှိပါက "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် ငှားရမ်းသည့်မြေနှင့် အဆောက်အဦများကို ပြန်လည်ဝင်ရောက် လက်ရောက်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ ဝင်ရောက်လက်ရောက်ရယူခြင်းသည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"က"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"ထံမှရရန်ရှိသော မြေငှားရမ်းခများ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

## အပိုဒ်-၁၈။ အငြင်းပွားမှုဖြေရှင်းခြင်း

၁၈။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ဆုံးဖြတ်ချက်ကိုခံယူရမည်။

## အပိုဒ်-၁၉။ ပြင်ဆင်ခြင်း

၁၉။ ဤပဋိညာဉ်စာချုပ်တွင် မျှော်မှန်းမထားသော အခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ သဘောတူညီချက်ရယူပြီးနောက် ပဋိညာဉ်စာချုပ်ဝင်များသည် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထိုသို့ ပြင်ဆင်ချက်များကို ဤပဋိညာဉ်စာချုပ်၏ အစိတ်အပိုင်းအဖြစ် ပါဝင်သည်ဟု မှတ်ယူရမည်။

## အပိုဒ်-၂၀။ စာချုပ်ညှိနှိုင်းဆွေးနွေးခြင်း

၂၀။ ဤပဋိညာဉ်စာချုပ်တွင် မူလက မမျှော်မှန်းထားသော အခြေအနေ တစ်ရပ်ရပ် (သို့မဟုတ်) အနေအထားတစ်ရပ်ရပ် ဖြစ်ပေါ်လာပါက ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ရန် (သို့မဟုတ်) ပြောင်းလဲရန်ပေါ်ပေါက်လာသည့်အခါ နှစ်ဖက်စာချုပ်ဝင်တို့သည် သင့်လျော်သည့်ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ဖြည့်စွက်ခြင်းများ ဆောင်ရွက်နိုင်ရန် သဘောရိုးဖြင့် ညှိနှိုင်းဆွေးနွေးရမည်။

## အပိုဒ်-၂၁။ ပဋိညာဉ်စာချုပ်သက်တမ်းတိုးမြှင့်ခြင်း

၂၁။ ဤပဋိညာဉ်စာချုပ် သက်တမ်းတိုးမြှင့်လိုပါက ပဋိညာဉ်စာချုပ်သက်တမ်းမကုန်ဆုံးမီ ၆ (ခြောက်) လအတွင်း နှစ်ဖက်ညှိနှိုင်း သဘောတူညီမည့် သက်တမ်းတိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်း၊ စည်းကမ်း၊ နှုန်းထားများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့်သာ ပဋိညာဉ်စာချုပ် သက်တမ်းတိုးရန်ဖြစ်သည်။

### အပိုဒ်-၂၂။ ခွင့်ပြုလွှဲအပ်ခြင်း

၂၂။ ဤပဋိညာဉ်စာချုပ်ပါ အခွင့်အရေးများနှင့် လုပ်ငန်းတာဝန်များကို ပဋိညာဉ်စာချုပ်ဝင်များက အခြားသူများသို့ ခွင့်ပြုလွှဲအပ်လိုပါက နှစ်ဦးနှစ်ဖက်လုံးက သဘောတူညီမှသာ ခွင့်ပြုလွှဲအပ်မှု စာချုပ်စာတမ်းပြုလုပ်၍ ခွင့်ပြုလွှဲအပ်နိုင်ခွင့်ရှိသည်။

### အပိုဒ်-၂၃။ အာမခံထားရှိခြင်း

၂၃။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ မြန်မာ့အာမခံဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သောအာမခံများထားရှိဆောင်ရွက်ရမည်။

### အပိုဒ်-၂၄။ အထွေထွေကိစ္စရပ်များ

၂၄။ (က) **တရားမဝင်ခြင်း။** ဤပဋိညာဉ်စာချုပ်ပါ ပြဋ္ဌာန်းချက် တစ်စုံတစ်ရာသည် တရားမဝင်ကြောင်း (သို့မဟုတ်) ဥပဒေအရ အရေးယူဆောင်ရွက်နိုင်မှု မရှိကြောင်း မည်သို့ပင်ပေါ်ပေါက်စေကာမူ ဤပဋိညာဉ်စာချုပ်ပါ ကျန်ပြဋ္ဌာန်းချက်များသည် ဥပဒေနှင့်အညီဆက်လက်၍ အပြည့်အဝအကျိုးသက်ရောက်မှုရှိစေရမည်။

(ခ) **ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်း။** ဤပဋိညာဉ်စာချုပ်ပါ ပြဋ္ဌာန်းချက်တစ်စုံတစ်ရာအား ဖောက်ဖျက်မှုကိုခွင့်လွှတ်ခြင်းသည် ထိုပြဋ္ဌာန်းချက်ကို (သို့မဟုတ်) ပဋိညာဉ်စာချုပ်၏ အခြားပြဋ္ဌာန်းချက်တစ်စုံတစ်ရာကို ဆက်လက်ချိုးဖောက်နေခြင်းအတွက် ခွင့်လွှတ်ရာမရောက်စေရ။

ဤပဋိညာဉ်စာချုပ်တွင် ဖော်ပြပါရှိသောအခွင့်အရေး၊ အခွင့်အာဏာ(သို့မဟုတ်) အကျိုးခံစားခွင့်တစ်စုံတစ်ရာကို စာချုပ်တွင်ပါဝင်လက်မှတ်ရေးထိုးသူများက ရယူဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးခြင်းသည် ထိုအခွင့်အရေး၊ အခွင့်အာဏာ (သို့မဟုတ်) အကျိုးခံစားခွင့်ကို စွန့်လွှတ်ရာမရောက်စေရ။ ထို့အပြင်ထိုအခွင့်ရေး၊ အခွင့်အာဏာ(သို့မဟုတ်)အကျိုးခံစားခွင့်တစ်ခု

တည်းကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း ရယူဆောင်ရွက်ခြင်းသည် အခြားအခွင့်အရေး၊ အခွင့်အာဏာ(သို့မဟုတ်) အကျိုးခံစားခွင့်ကိုရယူရန် ဟန့်တားရာမရောက်စေရ။

(ဂ) **လွှဲပြောင်းပေးခြင်း။** ဤပဋိညာဉ်စာချုပ် သက်တမ်း ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့ရက်မှ ၆(ခြောက်)လအတွင်း စာချုပ်ဝင်နှစ်ဦးနှစ်ဖက်၏ သဘောတူညီမှုဖြင့် ခန့်အပ်တာဝန်ပေးသော စစ်ဆေးရေးအဖွဲ့က စစ်ဆေးပြီး ၎င်းစစ်ဆေးရေးအဖွဲ့က သဘောတူလက်ခံသည့် သင့်တင့်သော ပျက်စီးမှုနှင့်ယိုယွင်းမှုများကို ခြွင်းချက်ထား၍ ကောင်းမွန်သောအနေအထားရှိသည့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" က ဆောက်လုပ်ထားသည့် ဆိပ်ခံတံတားနှင့် တံတားပေါ်ရှိ ကုန်ကိုင်တွယ်စက်ကရိယာများ အပါအဝင် မရွှေ့မပြောင်းနိုင်သောပစ္စည်းများကို အဖိုးစားနားမပါဘဲ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"ပိုင်ပစ္စည်းအဖြစ် လွှဲပြောင်းပေးရမည်။ အကယ်၍ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"မှ ဆိပ်ခံတံတားတစ်ခုလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း လက်ခံရန်ဆန္ဒမရှိလျှင် ထိုသို့လက်ခံနိုင်ခြင်းမရှိကြောင်း ညွှန်ကြားသည့် အဆောက်အဦများကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"၏ ကုန်ကျစရိတ်ဖြင့် လုံးဝဖယ်ရှားပေးရမည်။

(ဃ) **သဘာဝသယံဇာတပစ္စည်းများတွေ့ရှိခြင်း။** "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ငှားရမ်းမြေပေါ်တွင် တူးဖော်ခြင်း(သို့မဟုတ်) ဖောက်ခွဲခြင်းလုပ်ငန်းပြုလုပ်စဉ် အငှားချထားသော မြေပေါ်မြေအောက်မှ သဘာဝသယံဇာတပစ္စည်းများ၊ ဓါတ်သတ္တုများ၊ရေနံနှင့်သဘာဝဓါတ်ငွေ့များ အဖိုးတန်ကျောက်မျက်ရတနာများစသည့် မည်သည့်တွေ့ရှိမှုကိုမဆို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ ချက်ချင်းအကြောင်းကြားရမည်။ မြေတူးစဉ်နှင့် ဖောက်ခွဲမှုပြုလုပ်စဉ် တွေ့ရှိရသော အနုပညာ၊ ရှေးဟောင်းပစ္စည်းများ၊ သဘာဝသမိုင်း၊ ဒဂၤါးများနှင့် သိပ္ပံဆိုင်ရာ အရေးပါသောအရာဝတ္ထုများ၊ ရှားပါးပြီးတန်ဖိုးရှိသောပစ္စည်းများနှင့် သဘာဝ

သယံဇာတအရင်းအမြစ်များသည် နိုင်ငံပိုင်ပစ္စည်းများဖြစ်ပြီး ၎င်း၏သဘော အတိုင်း ဆောင်ရွက်နိုင်ခွင့်ရှိသည်။

"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် အဆိုပါပစ္စည်းများကို သက်ဆိုင်ရာ အစိုးရအဖွဲ့အစည်းသို့တင်ပြ၍ အတည်ပြုချက်ရယူပြီး မည်သည့်အချိန်တွင် မဆို လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေရမည်။

(င) **တစ်စိတ်တစ်ဒေသအဖြစ်မှတ်ယူခြင်း။** ဤပဋိညာဉ်စာချုပ်တွင် ပါဝင် လက်မှတ်ရေးထိုးသူများအကြား ချုပ်ဆိုသည့် မြေငှားစာချုပ်အပါအဝင် နောက်ဆက်တွဲများအားလုံးကို ဤပဋိညာဉ်စာချုပ်၏ တစ်စိတ်တစ်ဒေသ အဖြစ် မှတ်ယူရမည်။

(စ) **အကြောင်းကြားစာများ။** ဤပဋိညာဉ်စာချုပ်တွင် အခြားနည်းပြဋ္ဌာန်းထား ချက်များမှတစ်ပါး ဤပဋိညာဉ်စာချုပ်အရ လိုအပ်သော(သို့မဟုတ်) ခွင့်ပြု ထားသော အကြောင်းကြားစာတောင်းခံချက်(သို့မဟုတ်) အခြားဆက်သွယ်မှု အားလုံးကို စာဖြင့်ရေးပြီး၊ လက်ခံရမည့်သူ၏လိပ်စာတပ်၍ လူကိုယ်တိုင် သော်လည်းကောင်း၊ စာတိုက်မှမှတ်ပုံတင်၍သော်လည်းကောင်း၊ ဖက်(စ်)ဖြင့် သော်လည်းကောင်းပေးပို့ရမည်။ ဖော်ပြပါအကြောင်းကြားစာ၊ တောင်းခံချက် (သို့မဟုတ်) အခြားဆက်သွယ်မှု (ဤမှ နောင်တွင် "အကြောင်းကြားစာ" ဟု ရည်ညွှန်းမည်) တစ်စုံတစ်ရာကို အောက်ပါအတိုင်း ဆောင်ရွက်ပြီးဖြစ်က လက်ခံမည့်သူထံ တရားဝင်ပေးပို့ပြီးဖြစ်သည်ဟု မှတ်ယူရမည်-

(၁) ဖက်(စ်)ဖြင့် အကြောင်းကြားစာပေးပို့ပြီးဖြစ်ပါက၊ ဖက်(စ်)နံပါတ်၊ စာမျက်နှာအရေအတွက်နှင့် ပေးပို့ပြီးဖြစ်ကြောင်း အတည်ပြုဖော်ပြထား သည့်သတင်းပေးပို့ချက်မှတ်တမ်းကို ပေးပို့သူကလက်ခံရရှိလျှင် အဆိုပါ အကြောင်းကြားစာကို တရားဝင်ပေးပို့ပြီးဟု မှတ်ယူရမည်။

(၂) အကယ်၍အကြောင်းကြားစာကို လက်ခံမည့်သူ၏ လိပ်စာတပ်၍ တံဆိပ်ခေါင်းကပ်ပြီး စာတိုက်မှပေးပို့ခြင်းဖြစ်ပါက စာတိုက်မှပေးပို့ပြီးဖြစ်ကြောင်း သက်သေပြနိုင်ပြီး ထိုသို့ပေးပို့သည့်နေ့မှ ၁၄ (တစ်ဆယ့်လေး) ရက်မြောက်နေ့တွင် စာအိတ်ပေါ်၌ ရေးသားထားသည့်လိပ်စာရှင်ထံသို့ တရားဝင်ပေးပို့ပြီးဖြစ်ကြောင်း မှတ်ယူရမည်။

အပိုဒ်-၂၅။ **ဆက်သွယ်ရန် လိပ်စာများ**

၂၅။ ဤပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသားဆက်သွယ်ရန် လိပ်စာမှာ အောက်ပါအတိုင်းဖြစ်သည်-

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

အမှတ် (၁၀) ပန်းဆိုးတန်းလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်)အမှတ်-၂၄၆၇၈၁၊ ၃၉၁၃၅၅

နှင့်

မန်နေဂျင်းဒါရိုက်တာ

**Hlaing Inland Terminal and Logistics Co., Ltd**

အမှတ် (၃၉)၊ အခန်းအမှတ်(၄၀၆)၊ (၄)လွှာ၊ ယူနိုက်တက်ကွန်ဒိုတာဝါ(၁)၊

အလံပြဘုရားလမ်း၊ ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်)အမှတ်-၂၂၁၂၀၄

သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ( )ရက်နေ့၊ -------- လ၊ ၂၀၁၈ ခုနှစ်တွင် အောက်ပါအသိသက်သေများ ရှေ့မှောက်၌ ဤပဋိညာဉ်စာချုပ်ကို လက်မှတ်ရေးထိုးကြပါသည် -

လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ(ကိုယ်စား) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ(ကိုယ်စား)

| | |
|---|---|
| အမည် - ဦးနီအောင် | အမည် - ဦးအောင်မင်းဟန် |
| ရာထူး - ဦးဆောင်ညွှန်ကြားရေးမှူး | ရာထူး - မန်နေဂျင်းဒါရိုက်တာ |
| ဌာန - မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | ဌာန - Hlaing Inland Terminal and Logistics Co., Ltd |

သက်သေများ

| | |
|---|---|
| အမည် - ဦးသက်ထွန်း | အမည် - |
| ရာထူး - အထွေထွေမန်နေဂျာ | ရာထူး - |
| ဌာန - မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | ဌာန - Hlaing Inland Terminal and Logistics Co., Ltd |

ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

Hlaing Inland Terminal and Logistics Co., Ltd

တို့အကြား

ဆိပ်ကမ်းနယ်နိမိတ်အတွင်းကျရောက်လျက်ရှိသော

ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊

ရွှေလင်ပန်းစက်မှုဇုန်ရှိ လှိုင်မြစ်ကမ်းနဖူးတွင်

ကုန်သေတ္တာနှင့် အထွေထွေကုန်စည် ကိုင်တွယ်နိုင်သော

ကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက်ပြီး BOT စနစ်ဖြင့်

လုပ်ငန်းဆောင်ရွက်ရန်အတွက်

ချုပ်ဆိုသည့်

မြေငှားစာချုပ်(မူကြမ်း)

# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

# နှင့်

# Hlaing Inland Terminal and Logistics Co., Ltd

# တို့အကြား

# ဆိပ်ကမ်းနယ်နိမိတ်အတွင်းကျရောက်လျက်ရှိသော ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်ရှိ လှိုင်မြစ်ကမ်းနဖူးတွင် ကုန်သေတ္တာနှင့် အထွေထွေကုန်စည် ကိုင်တွယ်နိုင်သော ကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက်ပြီး BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

# ပဋိညာဉ်စာချုပ် (မူကြမ်း)

# နှင့်

# မြေငှားစာချုပ် (မူကြမ်း)

၂၀၁၈ ခုနှစ်၊ လ ( ) ရက်

**ဆိပ်ကမ်းနယ်နိမိတ်အတွင်းကျရောက်လျက်ရှိသော ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်ရှိ လှိုင်မြစ်ကမ်းနဖူးတွင် ကုန်သေတ္တာနှင့် အထွေထွေကုန်စည် ကိုင်တွယ်နိုင်သော ကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက်ပြီး BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်အတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Hlaing Inland Terminal and Logistics Co., Ltd တို့အကြား ချုပ်ဆိုသည့်**

**မြေငှားစာချုပ် (မူကြမ်း)**

ဤမြေငှားစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တွင် ၂၀၁၈ ခုနှစ်၊ ------------- လ (　　) ရက်နေ့၌

**ဦးနီအောင်**၊ ဦးဆောင်ညွှန်ကြားရေးမှူးကိုယ်စားပြုသော ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန လက်အောက်ရှိ မြန်မာ့ဆိပ်ကမ်း အာဏာပိုင် (ဤမှ နောင်တွင် "မြေငှားရမ်းသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကား ရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်) က တစ်ဖက်

နှင့်

**ဦးအောင်မင်းဟန်**၊ မန်နေဂျင်းဒါရိုက်တာ၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ်၊ ၁၂/မဂတ (နိုင်) ၀၇၄၄၂၉ ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ များအရ ဖွဲ့စည်းထားသောကုမ္ပဏီဖြစ်ပြီး ရန်ကုန်မြို့၊ ဒဂုံမြို့နယ်၊ ယောမင်းကြီးရပ်ကွက်၊ အလံပြဘုရားလမ်း၊ ယုတိုက်တက်ကွန်ဒိုတာဝါ(၁)၊ အခန်းအမှတ်(၄၀၆)၊ အမှတ်(၃၉) တွင် တည်ရှိသည့် ကုမ္ပဏီဖြစ်သည့် **Hlaing Inland Terminal and Logistics Co., Ltd** (ဤမှနောင်တွင် "မြေငှားချထားခြင်းခံရသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကား ရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေ

အရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည် ဟုမှတ်ယူရမည်) က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

**နိဒါန်း**

(က) "မြေငှားရမ်းသူ"သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်ရှိ မြေကွက်အမှတ် ၁၅/၁-B မြေနေရာကို ကျောထောက်နောက်ခံပြု၍ ပူးတွဲ( )တွင် အနီရောင်ဖြင့် ဘောင်ခတ်ထားသော လှိုင်မြစ်ကမ်းနဖူးရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စီရင်ပိုင်ခွင့်ရှိသော ရေဒေသ ဧရိယာ ၁၁၆၄၀၀ စတုရန်းပေ (၁၀၈၁၄ စတုရန်းမီတာ = ၂.၆၇ ဧက) ကို ဥပဒေအရ တရားဝင် ပိုင်ဆိုင်ခွင့်ရှိကြောင်း ကိုယ်စားပြုအာမခံချက်ပေးသဖြင့် လည်းကောင်း၊

(ခ) "မြေငှားရမ်းသူ" က မိမိပိုင်မြေကို "မြေငှားချထားခြင်းခံရသူ" သို့ ငှားရမ်းလိုကြောင်းနှင့် "မြေငှားချထားခြင်းခံရသူ" ကလည်း "မြေငှားရမ်းသူ" ထံမှ မြေကို ငှားရမ်း၍ ကုန်သေတ္တာနှင့် အထွေထွေကုန်စည် ကိုင်တွယ်နိုင်သော ကွန်ကရစ်ဆိပ်ခံတံတားနှင့် လုပ်ငန်းသဘာဝအရ ဆက်စပ်နေသည့် အခြားအသုံးဆောင်များ (နောင်တွင် **"Hlaing Inland Terminal"**ဟု သုံးနှုန်းခေါ်ဆိုပါမည်) တည်ဆောက်နိုင်ရန်အတွက် ဤမြေငှားစာချုပ်တွင်ပါရှိသည့် အောက်ဖော်ပြပါ စည်းမျဉ်းစည်းကမ်းချက်များပါ ငှားရမ်းကာလအတိုင်း ငှားရမ်းအသုံးပြုလိုသည့်အပြင် အဆိုပါ ငှားရမ်းမြေပေါ်တွင် ဆိပ်ခံတံတားအပါအဝင် လုပ်ငန်းသဘာဝအရ ဆက်စပ်နေသည့် အခြားအသုံးဆောင်များကို အကောင်အထည်ဖော်တည်ဆောက်၍ တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း (Build, Operate and Transfer-BOT) စနစ်ဖြင့် ဆိပ်ကမ်းလုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန် ချုပ်ဆိုသည့်မြေစာချုပ် (ဤမှ နောင်တွင် "ဤစာချုပ်" ဟုခေါ်ဆိုပါမည်) ပါ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ငှားရမ်းအသုံးပြုရန် ဆန္ဒရှိသဖြင့် လည်းကောင်း၊

(ဂ) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်က ပြဋ္ဌာန်းထားသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပါသတ်မှတ်ချက်နှင့်အညီ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလသက်တမ်း/ မြေငှားကာလ

သက်တမ်းကို ဤစာချုပ်၏အပိုဒ်-၁ ပါ သတ်မှတ်ချက်နှင့်အညီ သဘောတူသဖြင့် လည်းကောင်း၊

ဤမြေငှားစာချုပ်ကို နှစ်ဦးနှစ်ဖက်အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူချုပ်ဆိုကြပါသည်-

၁။ အောက်ဖော်ပြပါအတိုင်း မြေအသုံးချမှုပရီမီယံနှင့် မြေငှားခကျသင့်ငွေများကို ပေးချေရန် သဘောတူညီချက်ကိုထောက်ထား၍ "မြေငှားရမ်းသူ" သည် "မြေငှားချထားခြင်း ခံရသူ" သို့ "Hlaing Inland Terminal"အား BOT စနစ်ဖြင့် မြေငှားကာလသက်တမ်းနှင့် မြေငှားစာချုပ်ကာလသက်တမ်းကို ဤမြေငှားစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ နှစ်ပေါင်း (၅၀)နှစ်ခွင့်ပြုရန် သဘောတူညီပြီး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ် သက်တမ်းတိုးမြှင့်ခြင်းကို သက်တမ်းတစ်ကြိမ်လျှင် (၁၀) နှစ်နှင့် (၂)ကြိမ် တိုးမြှင့်ခွင့်ပြုနိုင်သည် -

(က) **မြေအသုံးချမှုပရီမီယံကြေး။** **"Hlaing Inland Terminal"**အတွက် ငှားရမ်းသည့်မြေနှင့်ပတ်သက်၍ "မြေငှားချထားခြင်းခံရသူ" က "မြေငှားရမ်းသူ" ထံ မြေတစ်ဧကလျှင် ငွေကျပ် ၁၅,၀၀၀,၀၀၀ (ကျပ်တစ်ဆယ့် ငါးသန်း တိတိ) နှုန်းဖြင့် စုစုပေါင်း (၂.၆၇) ဧကအတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ် ငွေကျပ် ၄၀,၀၅၀,၀၀၀/- (ငွေကျပ် သန်းလေးဆယ့် ငါးသောင်း တိတိ)ကို အောက်ပါအတိုင်း ပေးချေသွားမည်ဖြစ်ပါသည် -

(၁) စာချုပ်လက်မှတ်ရေးထိုးပြီး ၁(တစ်)လအတွင်း ကျပ် ၂၀,၀၂၅,၀၀၀/- (ကျပ်သန်း နှစ်ဆယ်နှင့် နှစ်သောင်းငါးထောင် တိတိ) ကို ပထမအရစ် အဖြစ် ပေးချေရမည်။

(၂) စာချုပ် လက်မှတ်ရေးထိုးပြီး ၁၂ (တစ်ဆယ့်နှစ်) လ အတွင်း ကျပ် ၂၀,၀၂၅,၀၀၀/- (ကျပ်သန်း နှစ်ဆယ်နှင့် နှစ်သောင်းငါးထောင် တိတိ) ကို ဒုတိယရစ်အဖြစ် ပေးချေရမည်။

(၃) အထက်ပါသတ်မှတ်ချက်အတိုင်း မြေအသုံးချမှုပရီမီယံကြေး ပေးဆောင်ရန် ပျက်ကွက်ပါက ဤစာချုပ်၏အပိုဒ် ၁၂ (ခ) အရ စာချုပ်ကို ရပ်စဲနိုင်သည်။

(ခ) မြေငှားရမ်းခ။ **"Hlaing Inland Terminal"**အတွက် ငှားရမ်းသည့် မြေနှင့် ပတ်သက်၍ တည်ဆောက်ရေးကာလ စေ့ရောက်သည့် နေ့မှစ၍ လစဉ်မြေငှားရမ်းခကို "မြေငှားချထားခြင်းခံရသူ"က "မြေငှားရမ်းသူ" ထံ ပေးချေရမည်-

ဆိပ်ခံတံတားအတွက် မြေငှားရမ်းခ ၂.၆၇ ဧက = ကျပ် ၅,၄၀၇,၀၀၀/-

(၁၀၈၁၄ စတုရန်းမီတာ x ၅၀၀ိ/-)

(၁) သက်ဆိုင်ရာဘဏ္ဍာရေးနှစ်အတွက် ကျသင့် မြေငှားရမ်းခကို ၃(သုံး)လ တစ်ကြိမ် ပေးချေရပါမည်။

(၂) အထက်စာပိုဒ် ၁(က)ပါ မြေအသုံးချမှုပရီမီယံကြေး၊ ၁(ခ)ပါ လစဉ်မြေငှားရမ်းခ တို့အတွက် ကျသင့်ငွေများကို သတ်မှတ်ချက်အတိုင်း ပေးဆောင်ရန်ပျက်ကွက်ပါက ဤမြေငှားစာချုပ်၏ အပိုဒ် ၁၂ (ခ) ပါ သတ်မှတ်ချက်အတိုင်း စာချုပ်ကိုရပ်စဲနိုင်သည်။

၂။ ဤမြေငှားစာချုပ်သည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့တွင် စတင်အကျိုးသက် ရောက်စေရမည်။

၃။ "မြေငှားချထားခြင်းခံရသူ" သည် "မြေငှားရမ်းသူ" ထံသို့ အောက်ပါအတိုင်း ခံဝန်ကတိပြုသည် -

(က) ငှားရမ်းသည့် မြေအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း၊ ထပ်ဆင့်အငှားချထားခြင်း၊ ပေါင်နှံခြင်းမပြုရ။

(ခ) **"Hlaing Inland Terminal"** နှင့်ပတ်သက်သည့် တည်ဆောက်မည့် ဆိပ်ခံတံတား၊ တံတားပေါ်တွင် တပ်ဆင်အသုံးပြုမည့် ကုန်ကိုင်တွယ် စက်ကိရိယာများ၊ ယန္တရားများနှင့် ဆက်နွယ်သည့် ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်အားလုံးကို ကျခံရမည်။

(ဂ) ခေတ်မီဆိပ်ခံတံတား တည်ဆောက်ရာတွင်လည်းကောင်း၊ တံတားပေါ်တွင် ကုန်ကိုင်တွယ် စက်ကိရိယာများနှင့် ယန္တရားများ တပ်ဆင်အသုံးပြုရာတွင်လည်းကောင်း သတ်မှတ် စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်သွားရမည်။

(ဃ) ငှားရမ်းသည့်မြေနေရာသို့ "မြေငှားရမ်းသူ" ၏ ကိုယ်စားတာဝန်ပေးအပ်ခြင်းခံရသူများအား ၎င်းတို့၏လုပ်ငန်းတာဝန်ကို လုပ်ဆောင်ရန်အလို့ငှာ ဝင်ရောက်ခွင့်ပြုရမည်။

(င) ငှားရမ်းသည့်မြေ (သို့မဟုတ်) ၎င်း၏အစိတ်အပိုင်းပေါ်တွင် အကောင်အထည်ဖော်ဆောင်ရွက်မည့်လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုများ အားလုံးသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေနှင့် အညီအညွတ်ဖြစ်ရမည်။

(စ) ငှားရမ်းသည့်မြေ (သို့မဟုတ်) ၎င်း၏အစိတ်အပိုင်းပေါ်တွင် ကျသင့်မည့် လျှပ်စစ်မီတာ၊ ရေနှင့် စည်ပင်သာယာအခွန်များ၊ နှုန်းထားများ(သို့မဟုတ်) စည်းကြပ်ခွန်များအားလုံးကို ပေးချေရမည်။

၄။ "မြေငှားရမ်းသူ" သည် "မြေငှားချထားခြင်းခံရသူ" သို့ အောက်ပါအတိုင်း ခံဝန်ကတိပြုပါသည် -

(က) "မြေငှားရမ်းသူ" သည် ငှားရမ်းသည့်မြေတွင် **"Hlaing Inland Terminal"** နှင့်သက်ဆိုင်သည့် ဆိပ်ခံတံတား တည်ဆောက်နိုင်ရန်အလို့ငှာ လက်ရောက်ပေးအပ်ငှားရမ်းရမည်ဖြစ်သည်။

(ခ) "မြေငှားချထားခြင်းခံရသူ" သည် ငှားရမ်းသည့်မြေသို့ ရည်မှန်းထားသည့် လုပ်ငန်းတာဝန်နှင့် သင့်မြတ်လျော်ကန်သောအသုံးအဆောင်များ ဆောက်လုပ်ရန်

အတွက် ငြိမ်သက်စွာနှင့် အေးငြိမ်စွာဝင်ရောက်နိုင်ခွင့်ရှိသည်။ သို့ရာတွင် ဆိပ်ခံတံတား၏ ပုံစံဒီဇိုင်းကို "မြေငှားရမ်းသူ"၏ အတည်ပြုချက် ရရှိပြီးမှသာ ဆောက်လုပ်ရမည်။

(ဂ) "မြေငှားချထားခြင်းခံရသူ" သည် မြေငှားစာချုပ်သက်တမ်းကာလအတွင်း မည်သည့်အနှောင့်အယှက်၊ အဟန့်အတားမှမရှိဘဲ၊ "မြေငှားရမ်းသူ"၏ ယုံမှတ်အပ်နှံခံရသူအနေဖြင့် ငှားရမ်းသည့်မြေကို ငြိမ်သက်စွာနှင့် အေးငြိမ်းစွာ လက်ဝယ်ရယူထားနိုင်ခွင့်ရှိသည်။

၅။ "မြေငှားချထားခြင်းခံရသူ" သည် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးမှုကြောင့် ပေါ်ပေါက်လာသော တံဆိပ်ခေါင်းခွန်ကို ပေးချေရန်အတွက်လည်းကောင်း၊ မြေငှားစာချုပ်၏ ရည်ရွယ်ချက်ကို အကောင်အထည်ဖော်ခြင်း၊ အဆောက်အဦများ ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းဆောင်ရွက်ခြင်းတို့ကြောင့် ပေါ်ပေါက်လာသောအခွန်အခများကို ပေးချေရန်အတွက်လည်းကောင်း တာဝန်ရှိသည်။

၆။ "မြေငှားချထားခြင်းခံရသူ" သည် "မြေငှားရမ်းသူ" ၏ တရားဝင်စာဖြင့် ခွင့်ပြုချက်မရရှိဘဲ ဤမြေငှားစာချုပ်၏ ရည်ရွယ်ချက်တစ်စုံတစ်ရာကို ပြောင်းလဲခြင်း (သို့မဟုတ်) တည်ဆောက်ထားသော ဆိပ်ခံတံတား၏ ပုံစံဒီဇိုင်းကို ပြုပြင်ပြောင်းလဲခြင်း မပြုရန် သဘောတူပါသည်။

၇။ "မြေငှားချထားခြင်းခံရသူ" သည် ငှားရမ်းသည့်မြေတွင် ဤစာချုပ်ပါအတိုင်း လုပ်ငန်း ဆောင်ရွက်နေစဉ်ကာလအတွင်း မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ အဖိုးတန် ကျောက်မျက်ရတနာများ၊ ရှေးဟောင်း ပစ္စည်းများတွေ့ရှိလျှင် "မြေငှားရမ်းသူ" ထံသို့ ချက်ချင်းအကြောင်းကြားရမည်ဖြစ်ပြီး ထိုပစ္စည်းများကို နိုင်ငံတော်ပိုင်ဖြစ်စေရသည်။

"မြေငှားရမ်းသူ" သည် အဆိုပါပစ္စည်းများကို သက်ဆိုင်ရာအစိုးရအဖွဲ့အစည်းသို့ တင်ပြ၍ အတည်ပြုချက်ရယူပြီး မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာ တူးဖော်ရယူခွင့် ရှိစေရမည်။

ပြောင်းလဲခြင်းနှင့် ဖြည့်စွက်ခြင်းများ ဆောင်ရွက်နိုင်ရန် သဘောရိုးဖြင့် ညှိနှိုင်းဆွေးနွေးရမည်။

၁၂။ ဤမြေငှားစာချုပ်ကို အောက်ပါအကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်ပါက ရပ်စဲနိုင်သည်-

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) ဤစာချုပ်ပါ တာဝန်များနှင့် စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က ဆောင်ရွက်ရန်ပျက်ကွက်ခြင်း၊ အဆိုပါပျက်ကွက်မှုအတွက် ပျက်ကွက်ခြင်းမရှိသည့် စာချုပ်ဝင်မှကုစားပေးရန် အကြောင်းကြားစာပေးပို့သည့်နေ့မှ ရက်ပေါင်း ၉၀ (ကိုးဆယ်)အတွင်း ပျက်ကွက်သူက ကုစားပေးရန် ပျက်ကွက်ခြင်း။

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင တားဆီးခြင်းလည်းမပြုနိုင်သော မလွန်ဆန်နိုင်သောဖြစ်ရပ်တစ်ရပ်သည် တစ်ဆက်တည်း (၆)လထက် ကျော်လွန်ဖြစ်ပွားခြင်း၊

(ဃ) လုပ်ငန်း၏မူလရည်မှန်းချက်များကို အကောင်အထည်ဖေါ်နိုင်စွမ်းမရှိတော့ခြင်း၊

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် မြေငှားစာချုပ်ကို ရပ်စဲခြင်း၊

(စ) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

၁၃။ မြေငှားစာချုပ်ဝင်အသီးသီးတို့သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများအရဖွဲ့စည်းထား၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ၎င်းတွင် ဤမြေငှားစာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်အာဏာ၊ ခိုင်မာသောဘဏ္ဍာရေးရပ်တည်မှုနှင့် အခွင့်အာဏာရှိသူဖြစ်ကြောင်း ကိုယ်စားပြုအာမခံချက်ပေးပါသည်။

တစ်ဖက်ဖက်ကလိုအပ်သော သတိဝိရိယနှင့်ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "မြေငှား ချထားခြင်းခံရသူ" သည် "မြေငှားရမ်းသူ" သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေး တောင်းခံခွင့်မရှိစေရ။

(ခ) ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ(၁၄)ရက်အတွင်း "မြေငှားချထားခြင်းခံရသူ" သည် "မြေငှားရမ်းသူ" သို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ "မြေငှားရမ်းသူ" က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်ပြောက်ပြီး ဤသဘောတူ စာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်များပျက်ကွက်ခြင်း၊ နှောင့်နှေး ကြန့်ကြာ ခြင်းသည် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့်ဖြစ်ပါက ကင်းလွတ်ခွင့်ပြုရမည်။

၂၀။ ဤမြေငှားစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်ပါက နှစ်ဦး နှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာ တရားစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်။

၂၁။ ဤမြေငှားစာချုပ်ရပ်စဲချိန် (သို့မဟုတ်) စာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့မှ ၆(ခြောက်)လအတွင်း စာချုပ်ဝင်နှစ်ဦးနှစ်ဖက်၏ သဘောတူညီမှုဖြင့် ခန့်အပ်တာဝန်ပေး သော စစ်ဆေးရေးအဖွဲ့က စစ်ဆေးပြီး ၎င်းစစ်ဆေးရေးအဖွဲ့က သဘောတူလက်ခံသည့် သင့်တင့်သောပျက်စီးမှုနှင့် ယိုယွင်းမှုများကို ခြွင်းချက်ထား၍ ကောင်းမွန်သောအနေအထား ရှိသည့် ဆိပ်ခံတံတားနှင့် တံတားပေါ်ရှိ ကုန်ကိုင်တွယ်စက်ကရိယာများ အပါအဝင် မရွှေ့မပြောင်းနိုင်သောပစ္စည်းများနှင့်မြေကို "မြေငှားချထားခြင်းခံရသူ" က "မြေငှားရမ်းသူ" ထံ ပြန်လည်လွှဲပြောင်းပေးရမည်။ အကယ်၍ "မြေငှားရမ်းသူ" မှ ဆိပ်ခံတံတားတစ်ခု ကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း လက်ခံရန်ဆန္ဒ မရှိလျှင် ထိုသို့လက်ခံနိုင်ခြင်းမရှိကြောင်း ညွှန်ကြားသည့်အဆောက်အဦများကို "မြေငှားချထားခြင်း ခံရသူ" ၏ ကုန်ကျစရိတ်ဖြင့် လုံးဝဖယ်ရှားပေးရမည်။

"မြေငှားချထားခြင်းခံရသူ" သည် ရွှေ့ပြောင်းနိုင်သောပစ္စည်းများအားလုံးကို စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့မှ ၆(ခြောက်)လအတွင်း မိမိ၏စရိတ်ဖြင့် ဖယ်ရှားပေးပြီး၊ အဆိုပါပစ္စည်းများကို ပြန်လည်ပိုင်ဆိုင်ခွင့် အခွင့်အရေးရှိစေရမည်။

၂၂။ "မြေငှားရမ်းသူ"မှ ယင်းငှားရမ်းမြေသည် ၄င်းကတစ်ဦးတည်းပိုင်ဆိုင်ထားကြောင်းနှင့် ယင်းငှားရမ်းမြေကို "မြေငှားချထားခြင်းခံရသူ" အား **"Hlaing Inland Terminal"** အကောင်အထည်ဖေါ် ဆောင်ရွက်ရာတွင် လုပ်ငန်းများအားလုံး ပြီးစီးအောင်ဆောင်ရွက်ရန် ငှားရမ်းရမည်ကို ဝန်ခံကတိပြုပါသည်။

၂၃။ ဤမြေငှားစာချုပ်ဝင်များအကြား စာဖြင့်ရေးသားဆက်သွယ်ရန်လိပ်စာမှာ အောက်ပါအတိုင်းဖြစ်သည်-

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

အမှတ် (၁၀) ပန်းဆိုးတန်းလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်)အမှတ်-၂၄၆၇၈၁၊ ၃၉၁၃၅၅

နှင့်

မန်နေဂျင်းဒါရိုက်တာ

**Hlaing Inland Terminal and Logistics Co., Ltd**

အမှတ် (၃၉)၊ အခန်းအမှတ်(၄၀၆)၊ (၄)လွှာ၊ ယူနိုက်တက်ကွန်ဒိုတာဝါ(၁)၊

အလံပြဘုရားလမ်း၊ ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်)အမှတ်-၂၂၁၂၀၄

သက်သေထင်ရှား စိမ့်သောငှာ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ရက်၊ ( )လ၊ ၂၀၁၈ ခုနှစ်တို့တွင် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်။

မြေငှားရမ်းသူ (ကိုယ်စား) | မြေငှားချထားခြင်းခံရသူ(ကိုယ်စား)

အမည် - ဦးနီအောင်
ရာထူး - ဦးဆောင်ညွှန်ကြားရေးမှူး
ဌာန - မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

အမည် - ဦးအောင်မင်းဟန်
ရာထူး - မန်နေဂျင်းဒါရိုက်တာ
ဌာန - Hlaing Inland Terminal and Logistics Co., Ltd

သက်သေများ

အမည် - သက်ထွန်း
ရာထူး - အထွေထွေမန်နေဂျာ
ဌာန - မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

အမည် -
ရာထူး -
ဌာန - Hlaing Inland Terminal and Logistics Co., Ltd

# ဆန်စက်၏ ဆက်စပ်မြေနှင့် အဆောက်အဦများ လွှဲပြောင်းပေးအပ်သည့်မှတ်တမ်း

| | | |
|---|---|---|
| ၁။ | စက်ရုံအမည် | - အမှတ် (၂၈၂) တန် (၃၆၀) ဆန်စက် |
| ၂။ | တည်နေရာ | - လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | တင်ဒါအောင်မြင်သည့်တန်ဖိုး | - (၁၈၃၈. ၈၉၈) ကျပ်သန်း |
| ၄။ | လွှဲပြောင်းပေးအပ်သည့် | |
| | (က) မြေ | - (၅၁. ၂၇၃) ဧကအတွက် မြေပိုင်ဆိုင်မှု အထောက်အထားဖြစ်သော မြေစာရင်းပုံစံ (၁၀၅၊ ၁၀၆) အား ပူးတွဲ (၁) ဖြင့် ဖော်ပြထားပါသည်။ |
| | (ခ) အဆောက်အဦးများနှင့် လမ်း၊ တံတားများ | - အဆောက်အဦးနှင့် လမ်း၊ တံတားများ စာရင်းကို ပူးတွဲ (၂) ဖြင့် ဖော်ပြထားပြီး၊ အဆောက်အဦးနှင့် လမ်း၊ တံတားများမှတ်တမ်းဓာတ်ပုံများကို နောက်ဆက်တွဲ (၁)ဖြင့် ဖော်ပြထားပါသည်။ |
| | (ဂ) လုပ်ငန်းသုံးပစ္စည်းများစာရင်း | - လုပ်ငန်းသုံးပစ္စည်းများစာရင်းကို ပူးတွဲ (၃) ဖြင့် ဖော်ပြထားပြီး မှတ်တမ်းဓာတ်ပုံများကို နောက်ဆက်တွဲ (၂) ဖြင့် ဖော်ပြထားပါသည်။ |
| ၅။ | စတင်လွှဲပြောင်းသည့်နေ့ | - ၃၀ . ၈. ၂၀၁၂ |
| ၆။ | လွှဲပြောင်းပြီးစီးသည့်နေ့ | - ၃၀ . ၈. ၂၀၁၂ |

| လွှဲပြောင်းပေးအပ်သူ | လွှဲပြောင်းလက်ခံသူ |
|---|---|
| မြန်မာ့လယ်ယာထွက်ကုန်ပစ္စည်းရောင်းဝယ်ရေး | ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင်လီမိတက် |
| (၁) ( ဘသန်း ) | ဒုတိယဗိုလ်မှူးကြီးစိုးတင့်(ငြိမ်း) |
| တိုင်းဒေသကြီးမန်နေဂျာ | အဖွဲ့ခေါင်းဆောင် |
| အဖွဲ့ခေါင်းဆောင် | ဒါရိုက်တာ |
| ရန်ကုန်တိုင်းဒေသကြီး၊ ဆန်စက်/ဖွဲနုဆီစက်များ လွှဲပြောင်းပေးအပ်ရေးအဖွဲ့ | အမိပတိဆန်စပါးရောင်းဝယ်ရေးလုပ်ငန်း |

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်

<u>အမိန့်ကြော်ငြာစာ</u>

အမှတ်၊ ၇၆ /၂၀၁၀

၁၃၇၂ ခုနှစ်၊ တော်သလင်းလဆန်း၊ ( ၁၅ )ရက်

၂၀၁၀ပြည့်နှစ် ၊ စက်တင်ဘာလ( ၂၃ )ရက်

<u>ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်ရှိ ဆန်စက်အမှတ်(၂၈၂)(တန်၃၆၀)ကျ အား</u>

<u>ပုဂ္ဂလိကသို့လွှဲပြောင်းရောင်းချခြင်း</u>

၁။ ၂၀၀၉ခုနှစ်၊ ဇန်နဝါရီလ(၃၀)ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သော ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင် အစည်းအဝေး အမှတ်(၁/၂၀၀၉) ၏ သဘောတူအတည်ပြုချက်အရ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ မြန်မာ့လယ်ယာထွက်ကုန်ပစ္စည်းရောင်းဝယ်ရေးပိုင် ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်ရှိ ဆန်စက်အမှတ်(၂၈၂)(တန်၃၆၀)ကျကို ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက် သို့ ကျပ်(၆၅၅.၈၀၃၀၂၃)သန်းဖြင့် အပြီးအပြတ် ရောင်းချခဲ့ပါသည်။

၂။ ၂၀၀၉ခုနှစ်၊ မေလ(၂၆)ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်(၃၄/၂၀၀၉) အပိုဒ်(၄)ပါ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်ရှိ ဆန်စက်အမှတ်(၂၈၂)(တန်၃၆၀)ကျ ကို ဝယ်ယူသူ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက် ၏ အမည်ပေါက် မြေဂရန်ထုတ်ပေးရေး ကို ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ က တာဝန်ယူဆောင်ရွက်ပေးရန် ဖြစ်သည် ကို အောက်ပါအတိုင်း ပြင်ဆင်လိုက်သည်-

> "ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်ရှိ ဆန်စက်အမှတ်(၂၈၂)(တန်၃၆၀)ကျ ကို ဝယ်ယူသူ ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက် ၏ အမည်ပေါက် မြေဂရန်ထုတ်ပေးရေး ကို ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန မှ တာဝန်ယူ ဆောင်ရွက်ပေးရန် ဖြစ်သည်။"

အမိန့်အရ၊

(သူရိန်ဇော်)

တွဲဖက်အတွင်းရေးမှူး

ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်

စာအမှတ်၊ ပဂက-၉ (၂၄၂ / ၂၀၁၀)၊

ရက်စွဲ၊ ၂၀၁၀ပြည့်နှစ်၊ စက်တင်ဘာလ( ၂၃ )ရက်၊

6.Nsing212(order)copy

ဖြန့်ဝေခြင်း။

(၁) နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး၊
(၂) နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၊
(၃) ဥက္ကဋ္ဌ၊တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊ရန်ကုန်တိုင်းဒေသကြီး၊
(၄) ပုဂ္ဂလိကပိုင်မြို့လုပ်ရေးကော်မရှင်အဖွဲ့ဝင်အားလုံး၊
(၅) အစိုးရအဖွဲ့ရုံး၊
(၆) တရားရုံးချုပ်၊
(၇) ရှေ့နေချုပ်ရုံး၊
(၈) စာရင်းစစ်ချုပ်ရုံး၊
(၉) ဝန်ကြီးဌာနများအားလုံး၊
(၁၀) တန်ဖိုးတွက်ချက်သတ်မှတ်ရေးကော်မတီ၊
(၁၁) မြေစိစစ်ရေးအဖွဲ့၊
(၁၂) ဦးဆောင်ညွှန်ကြားရေးမှူး၊မြန်မာ့လယ်ယာထွက်ကုန်ပစ္စည်းရောင်းဝယ်ရေး၊
(၁၃) ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ၊
(၁၄) ညွှန်ကြားရေးမှူးချုပ်၊အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊
(၁၅) ညွှန်ကြားရေးမှူးချုပ်၊ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန၊
(၁၆) ဥက္ကဋ္ဌ၊ခရိုင်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊
ရန်ကုန်(မြောက်ပိုင်း)ခရိုင်၊ရန်ကုန်တိုင်းဒေသကြီး၊
(၁၇) ဥက္ကဋ္ဌ၊မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊
လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ၊
(၁၈) ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်၊
အမှတ်(၁၈၉/၁၉၁)၊မဟာဗန္ဓုလလမ်း၊ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ၊
(၁၉) ဦးဆောင်ညွှန်ကြားရေးမှူး၊
သတင်းနှင့်စာနယ်ဇင်းလုပ်ငန်း၊
(၂၀) ဦးဆောင်ညွှန်ကြားရေးမှူး၊
ပုံနှိပ်ရေးနှင့်စာအုပ်ထုတ်ဝေရေးလုပ်ငန်း၊ } မြန်မာနိုင်ငံပြန်တမ်းအပိုင်း(၁)တွင် ထည့်သွင်းကြေညာပေးပါရန်

မေတ္တာရပ်ခံလျက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်

## အမိန့်ကြော်ငြာစာ

အမှတ်၊ ၁၂၅ / ၂၀၁၀

၁၃၇၂ ခုနှစ်၊ နတ်တော်လဆန်း ( ၉ ) ရက်

၂၀၁၀ ပြည့်နှစ်၊ ဒီဇင်ဘာလ ( ၁၅ ) ရက်

**ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်၊ဆန်စက်အမှတ်(၂၈၂)၏ဆက်စပ်မြေ(၅၁.၂၇၃)ဧကအား ပုဂ္ဂလိကသို့လွှဲပြောင်းရောင်းချခြင်း**

၁။ ၂၀၁၀ ပြည့်နှစ်၊ ဩဂုတ်လ(၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သော ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင် အစည်းအဝေး အမှတ်(၂/၂၀၁၀)၏ သဘောတူအတည်ပြုချက်အရ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ မြန်မာ့လယ်ယာထွက်ကုန်ပစ္စည်းရောင်းဝယ်ရေး လက်အောက်ရှိ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဆန်စက်အမှတ်(၂၈၂)၏ ဆက်စပ်မြေ(၅၁.၂၇၃)ဧကကို ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်သို့ ကျပ်(၂၄၁၅.၇၁၉)သန်းဖြင့် အပြီးအပြတ် ရောင်းချလိုက်သည်။

၂။ ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဆန်စက်အမှတ်(၂၈၂)၏ ဆက်စပ်မြေ(၅၁.၂၇၃)ဧက အတွက် တန်ဖိုး၏(၃၀)ရာခိုင်နှုန်းဖြစ်သောကျပ်(၇၂၄.၇၁၅၇)သန်းကို (၉-၁၁-၂၀၁၀)ရက်နေ့တွင်ပေးသွင်းခဲ့ပြီးဖြစ်ပါသည်။ ထပ်မံ၍ (၅)ရာခိုင်နှုန်းကို ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်၏ အမိန့်ကြော်ငြာစာ ထုတ်ပြန်သည့်နေ့မှစ၍ (၃၀)ရက်အတွင်း ပေးသွင်းရန်ဖြစ်သည်။ ကျန်ရှိသော(၆၅)ရာခိုင်နှုန်းကို ကော်မရှင်မှသတ်မှတ်သည့် (၅)ရာခိုင်နှုန်း ပေးသွင်းရန် နောက်ဆုံး သတ်မှတ်ထားသည့်နေ့မှစ၍ ရက်ပေါင်း(၁၈၀)အတွင်း အကြေအလည်ပေးသွင်းရန်ဖြစ်သည်။

၃။ တန်ဖိုးငွေများကို သက်ဆိုင်ရာဌာန၏ ငွေစာရင်းခေါင်းစဉ်သို့ ပေးသွင်းရန်ဖြစ်သည်။ ငွေသွင်းချလန်မူရင်းကို သက်ဆိုင်ရာဌာနသို့ လည်းကောင်း၊ ငွေသွင်းချလန်မိတ္တူကို ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်ရုံးသို့ လည်းကောင်း ပေးအပ်ရမည်။

၄။ ဝယ်ယူသူ ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်က တန်ဖိုး(၁၀၀)ရာခိုင်နှုန်း ပေးသွင်းပြီးသည့်အခါ လွှဲပြောင်း ပေးရေးအတွက် ကော်မရှင်ရုံးမှ အကြောင်းကြားစာ ပေးပို့သည့်နေ့မှ ရက်သတ္တနှစ်ပတ်အတွင်း စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ မြန်မာ့လယ်ယာထွက်ကုန်ပစ္စည်းရောင်းဝယ်ရေးလက်အောက်ရှိ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဆန်စက

...နိုင်ငံတော်

...တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ... မြေကွက်အမှတ်(၂၈၂)ရှိ ...
...ကျေ ၏ ... မြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်၏ အမည်ပေါက် (၅၁.၂၃၃)ဧကကို ဝယ်ယူသူပြည်တောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်၏ အမည်ပေါက် ပုဟ်ပေးရေးကို လှိုင်သာယာမြို့နယ်တွင် မြို့မြေစီမံခန့်ခွဲရေးကို တာဝန်ယူဆောင်ရွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနက တာဝန်ယူဆောင်ရွက် ဖြစ်သည်။

၆။ မြန်မာ့လယ်ယာထွက်ကုန်ပစ္စည်းရောင်းဝယ်ရေးသည် လွှဲပြောင်းရေးကိစ္စရပ်များနှင့်စပ် ဆောင်ရွက်ပြီးစီးမှုကို ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်ရုံး (စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီ ဦးစီးဌာန၊ ရုံးအမှတ် (၃၂)၊နေပြည်တော် )သို့ အစီရင်ခံတင်ပြရန်ဖြစ်သည်။

အမိန့်အရ၊

(signature)

(သူရိန်ဇော်)
တွဲဖက်အတွင်းရေးမှူး
ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်

စာအမှတ်၊ ပဂက - ၉ ( ၃၄၄၁ / ၂၀၁၀)။
ရက်စွဲ၊ ၂၀၁၀ပြည့်နှစ်၊ ဒီဇင်ဘာလ( ၁၅ )ရက်။

မိတ္တူ

<u>ဖြန့်ဝေခြင်း၊</u>
(၁) နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး၊
(၂) နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၊
(၃) ဥက္ကဋ္ဌ၊တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊ရန်ကုန်တိုင်းဒေသကြီး၊ရန်ကုန်၊
(၄) ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်အဖွဲ့ဝင်အားလုံး၊
(၅) အစိုးရအဖွဲ့ရုံး၊
(၆) တရားရုံးချုပ်၊
(၇) ရှေ့နေချုပ်ရုံး၊
(၈) စာရင်းစစ်ချုပ်ရုံး၊
(၉) ဝန်ကြီးဌာနများအားလုံး၊
(၁၀) တန်ဖိုးတွက်ချက်သတ်မှတ်ရေးကော်မတီ၊
(၁၁) မြေစိစစ်ရေးအဖွဲ့၊

(၁၄) ညွှန်ကြားရေးမှူးချုပ်၊အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊

(၁၅) ညွှန်ကြားရေးမှူးချုပ်၊ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန၊

(၁၆) ဥက္ကဋ္ဌ၊ခရိုင်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊
ရန်ကုန်(မြောက်ပိုင်းခရိုင်)၊ရန်ကုန်တိုင်းဒေသကြီး၊

(၁၇) ခရိုင်အုပ်ချုပ်ရေးမှူး၊အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊
ရန်ကုန်(မြောက်ပိုင်းခရိုင်)၊ရန်ကုန်တိုင်းဒေသကြီး၊

(၁၈) ခရိုင်ဦးစီးမှူး၊မြေစာရင်းဦးစီးဌာန၊
ရန်ကုန်(မြောက်ပိုင်းခရိုင်)၊ရန်ကုန်တိုင်းဒေသကြီး၊

(၁၉) ဥက္ကဋ္ဌ၊မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊
လှိုင်သာယာမြို့နယ်၊ ရန်ကုန်(မြောက်ပိုင်းခရိုင်)၊ရန်ကုန်တိုင်းဒေသကြီး၊

(၂၀) မြို့နယ်အုပ်ချုပ်ရေးမှူး၊အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊
လှိုင်သာယာမြို့နယ်၊ ရန်ကုန်(မြောက်ပိုင်းခရိုင်)၊ရန်ကုန်တိုင်းဒေသကြီး၊

(၂၁) မြို့နယ်ဦးစီးမှူး၊မြေစာရင်းဦးစီးဌာန၊
လှိုင်သာယာမြို့နယ်၊ ရန်ကုန်(မြောက်ပိုင်းခရိုင်)၊ရန်ကုန်တိုင်းဒေသကြီး၊

(၂၂) ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်
အမှတ်(၁၈၉/၁၉၁)၊မဟာဗန္ဓုလလမ်း၊
ဗိုလ်တထောင်မြို့နယ်၊ရန်ကုန်မြို့၊

(၂၃) ဦးဆောင်ညွှန်ကြားရေးမှူး၊
ပုံနှိပ်ရေးနှင့်စာအုပ်ထုတ်ဝေရေးလုပ်ငန်း၊

(၂၄) ဦးဆောင်ညွှန်ကြားရေးမှူး၊
သတင်းနှင့်စာနယ်ဇင်းလုပ်ငန်း။

} မြန်မာနိုင်ငံပြန်တမ်းအပိုင်း(၁)တွင် ထည့်သွင်း ကြေညာပေးပါရန် မေတ္တာရပ်ခံလျက်။

ဘဏ္ဍာရေးဝန်ကြီးဌာန
ပြည်တွင်းအခွန်များဦးစီးဌာန
အခွန်ထမ်းကြီးများဆိုင်ရာအခွန်ရုံး

Internal Revenue Department

Large Taxpayers' Office Large Taxpayers' Office Large Taxpayers' Office Large Taxpayers' Office Large Taxpayers' Office Large Taxpayers' Office Large Taxpayers' Office Large

Director : 01-384030, Deputy Director : 01-384294
Email : ltomyanmar@ird.gov.mm

စာအမှတ်၊ ပတခ/ခကရ/Compliance /၂၀၁၆ (၄၃)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၆ ရက်

သို့

တိုင်းဒေသကြီးအခွန်ဦးစီးဌာနမှူး
ပြည်တွင်းအခွန်များဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ တဆဖပုံစံ - ၇ ပေးပို့ခြင်း

ရည်ညွှန်းချက် ။ ကာလတန်ဖိုးစိစစ်သတ်မှတ်ရေးအဖွဲ့ (ရန်ကုန်တိုင်းဒေသကြီး) ၏ (၁-၂-၂၀၁၆) ရက်စွဲပါ စာအမှတ် ၊ ပတခ(ရက)/၃စ-၁၀/၂၀၁၆(၃၄၁)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ဝယ်ယူထားသည့် ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ်၊ အမှတ်(၁၅/၁-B) ရွှေအတွင်းဝန် ဦးဖိုးလှိုင်လမ်း၊ ရွှေလင်ပန်းဗန်းစက်မှုဇုန်ရှိ မြေကွက်နှင့် ယင်းမြေကွက်ပေါ်ရှိ အကျိုးခံစားခွင့်အရပ်ရပ်ဝယ်ယူခြင်းအား တန်ဖိုးသတ်မှတ်၍ ရည်ညွှန်းပါစာ ဖြင့် အကြောင်းကြားလာပါသည်။

၂။ ကာလတန်ဖိုးစိစစ်သတ်မှတ်ရေးအဖွဲ့ (ရန်ကုန်တိုင်းဒေသကြီး) ၏ ရည်ညွှန်းပါ စာအရ မြေကွက်ဝယ်ယူခြင်းအပေါ် ဆက်လက်ဆောင်ရွက်နိုင်ပါရန် တစဖ ပုံစံ-၇ နှင့်အတူ ပူးတွဲပေးပို့အပ်ပါသည်။

ဌာနမှူး (ကိုယ်စား)
[အောင်သူထူး၊ ဒုတိယညွှန်ကြားရေးမှူး]

မိတ္တူကို

- မြို့နယ်အခွန်ဦးစီးဌာနမှူး၊ လှိုင်သာယာမြို့နယ်
- ရုံးလက်ခံ/မျှောစာတွဲ

အခွန်ထမ်းကြီးများဆိုင်ရာအခွန်ရုံး

ကာလတန်ဖိုးစိစစ်သတ်မှတ်ပြီးဖြစ်သည့်အခြေပစ္စည်း၏အခွန်စည်းကြပ်ပြီးပြတ်မှု

တဆ-၈ ပုံစံ(က)

| စဉ် | အခြေပစ္စည်းပိုင်ရှင်၏ | | အခြေပစ္စည်း အမျိုးအစား | ရောင်းချ/ ဝယ်ယူ/ တည်ဆောက်/ ပြုပြင် | ကာလတန်ဖိုးစိစစ်သတ်မှတ်မှု | | အခွန်စည်းကြပ်ပြီးပြတ်မှု | | တံဆိပ်ခေါင်း ကောက်ခံ ရရှိငွေ | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|---|
| | အမည် | နေရပ်လိပ်စာ | | | သတ်မှတ် ရက်စွဲ | သတ်မှတ် တန်ဖိုး (ကျပ်သိန်း) | စည်းကြပ် သည့် အခွန် (ကျပ်) | အခွန် တောင်းခံ လွှာ (ရက်စွဲ) | | |
| ၁ | မြန်မာ စီးပွားရေး ဦးပိုင် လီမိတက် | - | မြေကွက် အမှတ် ၁၅/၁-B | ဝယ်ယူ | ၁.၂.၂၀၁၆ | (၆၅၅၈.၀၃၀၂၁) | SAS စနစ်နှင့် အညီ ဆောင် ရွက်ရန် ဖြစ် ပါသည်။ | - | | ကုမ္ပဏီ၏ သက်ဆိုင်ရာ ကြေညာလွှာ တွင် ပုံသေပိုင် ပစ္စည်း စာရင်းအဖြစ် ထည့်သွင်းမှု အခြေအနေ အားဆက် လက် စိစစ်ဆောင် ရွက်ပါမည်။ |

MYANMA ECONOMIC HOLDINGS LIMITED
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

Tel 397409 397453 397458 397471 397472
Fax 95-01-397454

No. 189 - 191, Mahabandoola Road.
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

Reference No. ဝန်ဆောင်မှု/စီမံ-၁/၄ (၆၇၇/၂၀၁၆)

Date ၁၁ -၃-၂၀၁၆

သို့

ညွှန်ကြားရေးမှူးချုပ်
မြို့ပြ နှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
နေပြည်တော်

အကြောင်းအရာ။ မြေပုံ ရာဇဝင်ရေးဆွဲပေးနိုင်ပါရန်တင်ပြခြင်း

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်သည် လှိုင်သာယာမြို့နယ် ရွှေလင်ပန်းစက်မှုဇုံရှိ တန် (၃၆၀)ဆန်စက်မြေပေါ်ရှိ လစ်လပ်လျှက်ရှိသော မြေဧက(၄၀)ခန့်တွင် Dry Port လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရန် စီစဉ်ဆောင်ရွက်လျက်ရှိပါသည်။ အဆိုပါ တန် (၃၆၀) နှင့် ဆက်စပ်မြေအား နောက်ဆက်တွဲပါ ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်အမိန့်ကြော်ငြာစာအမှတ် (၇၆/၂၀၁၀)ဖြင့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ လွှဲပြောင်းရယူခဲ့ပြီး ဆန်အချောထည်လုပ်ငန်းများဆက်လက်လုပ်ကိုင်ဆောင်ရွက်လျက်ရှိပါသည်။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် နှင့် ပုဂ္ဂလိက Logistic ကုမ္ပဏီတို့ အကျိုးတူပူးပေါင်း၍ Dry Port လုပ်ငန်းဆောင်ရွက်နိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (MIC)သို့ တင်ပြခွင့်ပြုချက်ရယူရမည်ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြနိုင်ရန်အတွက် လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုံရှိ အကွက်အမှတ် (၂၈၂)ရှိ တန် (၃၆၀)ဆန်စက်မြေ နှင့် ဆက်စပ်ဧရိယာတောင်ဖက်အခြမ်းဧက (၄၀) အတွက် လိုအပ်သောမြေပုံမြေရာဇဝင်အား ရေးဆွဲပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

စိုးတင့်
ဌာနကြီးမှူး
ဝန်ဆောင်မှုလုပ်ငန်းများဌာနကြီး

မိတ္တူကို

ဒု-ညွှန်ကြားရေးမှူး ၊ မြေတိုင်းဌာန (မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန)ရန်ကုန်မြို့
ရုံးလက်ခံ
✓ မျှောစာတွဲ

# Hlaing Inland Terminal and Logistics Company Limited

## List of Director

**Schedule (1)**

| စဉ် | | အစုရှင်/ဒါရိုက်တာအမည် | မှတ်ပုံတင်အမှတ် | ရာထူး | လိပ်စာ | အစုရှယ်ယာအရေအတွက် |
|---|---|---|---|---|---|---|
| ၁။ | | **လန်းပြီပင်လယ်ရေကြောင်း ကုမ္ပဏီလီမိတက် (ကိုယ်စားပြု)** | | | | ၅၁၀၀၀ ရှယ်ယာ |
| | ၁။ | ဦးစိုးတင့် | ၁၂/ဒဂန<br>(နိုင်) ၀၁၁၂၈၀ | ဒါရိုက်တာ | အမှတ်-(စီ-၂၆)၊ ရုံးတော်ရပ်ကွက်၊ သမိန်ဗရမ်းလမ်း၊ သန်လျင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | |
| | ၂။ | ဦးကျော်တင့် | ၁၂/ဒဂန<br>(နိုင်) ၀၀၃၇၄၂ | ဒါရိုက်တာ | အမှတ်-(၅၀၁)၊ တိုက် (အေ)၊ အင်ကြင်းမြိုင်အိမ်ရာ၊ ငါးထပ်ကြီးဘုရားလမ်း၊ ဗိုလ်ချို (၁) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | |
| | ၃။ | ဦးသက်တင်လှိုင် | ၁၂/စခန<br>(နိုင်) ၀၂၂၀၃၉ | ဒါရိုက်တာ | တိုက်အမှတ်-(၂၀)၊ အခန်း (ခ/၁)၊ ပဒုမ္မာလမ်း၊ ပြည်လမ်းအရှေ့ရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | |
| | ၄။ | ဦးအောင်ကျော်ဦး | ၁၂/မဂဒ<br>(နိုင်) ၀၁၀၅၇၇ | ဒါရိုက်တာ | အမှတ်-(၁၇)၊ တိုက် (၆၁)၊ ပါရမီအိမ်ရာ၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | |
| ၂။ | | **ထာဝရနန်ဒီအုပ်စုကုမ္ပဏီများ အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက် (ကိုယ်စားပြု)** | | | | ၄၉၀၀၀ ရှယ်ယာ |
| | ၁။ | ဦးအောင်မင်းဟန် (ခ) ကိုကိုအောင် | ၁၂/မဂတ<br>(နိုင်) ၀၇၄၄၂၉ | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်-(၄)၊ မြေညီထပ် (ဘီ)၊ မြမာလာလမ်း၊ (၃) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | |
| | ၂။ | ဦးကျော်လွင်ဦး | ၁၂/ကမရ<br>(နိုင်) ၀၀၉၂၂၂ | ဒါရိုက်တာ | တိုက် (၂၁)၊ ဒုတိယထပ်၊ အခန်း (၂၀၁)၊ ယုဇနလမ်း၊ (၅) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | |
| | ၃။ | ဒေါ်ခင်ဆုံ | ၁၂/လမန<br>(နိုင်) ၀၀၂၀၂၇ | ဒါရိုက်တာ | အမှတ်-(၂၅/ဘီ)၊ ထန်းတပင်အနောက်လမ်း၊ (၃) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | |
| | | | | | | ၁၀၀၀၀၀ ရှယ်ယာ |

# Hlaing Inland Terminal and Logistics Company Limited

## Investment Structure

**Schedule (1)-A**

**(In Thousand)**

| Sr No. | Particular | US$ | Equ; (Ks) | Ks | Total (Ks) |
|---|---|---|---|---|---|
| 1 | Cash | - | - | 4,010,880.51 | 4,010,880.51 |
| 2 | Value of Machinery | 3,167.308 | 4,117,500.00 | - | 4,117,500.00 |
| 3 | Value of Infrastructure Development | - | - | 19,862,618.49 | 19,862,618.49 |
| 4 | Value of Office Accessories | - | - | 46,995.00 | 46,995.00 |
| 5 | Building Cost | - | - | 2,396,966.00 | 2,396,966.00 |
| 6 | Land | - | - | 31,565,040.00 | 31,565,040.00 |
| **Total** | | **3,167.31** | **4,117,500.00** | **57,882,500.00** | **62,000,000.00** |

# Hlaing Inland Terminal and Logistics Company Limited

## Investment Structure

**Schedule (1) -B**

**(In Thousand)**

| | | | | Phase 1 | | | | Phase 2 | | | | Phase 3 | | | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| **Sr No.** | **Particular** | **Equity** | **Loan** | **US$** | **Equ; (Ks)** | **Ks** | **Total (Ks)** | **US$** | **Equ; (Ks)** | **Ks** | **Total (Ks)** | **US$** | **Equ; (Ks)** | **Ks** | **Total (Ks)** |
| 1 | Cash | 459,885,800 | | | | 4,010,880.51 | 4,010,880.51 | | | | - | | | | - |
| 2 | Value of Machinery | 3,570,000,000 | | 1,222.31 | 1,589,000.00 | | 1,589,000.00 | 970.00 | 1,261,000.00 | | 1,261,000.00 | 975.00 | 1,267,500.00 | | 1,267,500.00 |
| 3 | Value of Infrastructure Development | 19,862,618 | | | | 11,850,637.50 | 11,850,637.50 | | | 3,245,893.30 | 3,245,893.30 | | | 4,766,087.69 | 4,766,087.69 |
| 4 | Value of Office Accessories | 46,995 | | | | 46,995.00 | 46,995.00 | | | - | - | - | | | - |
| 5 | Building Cost | 1,203,620 | | | | 1,301,050.40 | 1,301,050.40 | | | 1,095,915.60 | 1,095,915.60 | - | | | - |
| 6 | Land | | | | | 31,565,040.00 | 31,565,040.00 | | | | | | | | - |
| **Total** | | **4,050,999,033** | | **1,222.31** | **1,589,000.00** | **48,774,603.41** | **50,363,603.41** | **970.00** | **1,261,000.00** | **4,341,808.90** | **5,602,808.90** | **975.00** | **1,267,500.00** | **4,766,087.69** | **6,033,587.69** |

**(Exchange Rate - 1US$ = Ks-1300**

## Hlaing Inland Terminal and Logistics Co., Ltd
## Infrastructure Development Cost

**Schedule (2)**

**(In Thousand)**

| Sr. No | Particular | Measurement | Unit | Estimate Cost (US$) | Amount (Ks) |
|---|---|---|---|---|---|
| 1 | Site Preparation | 40 | Acres | 323,744.00 | 420,867.20 |
| 2 | SI & Survey Works | 1 | L/S | 30,000.00 | 39,000.00 |
| 3 | Soil Improvement | 1 | L/S | 1,500,000.00 | 1,950,000.00 |
| 4 | CY | 800594.2 | sqft | 7,205,347.80 | 9,366,952.14 |
| 5 | Jetty | 50473 | sqft | 3,129,326.00 | 4,068,123.80 |
| 6 | Fencing Works | 2814 | Rft | 140,700.00 | 182,910.00 |
| 7 | Fencing Works (Bonded) | 500 | Rft | 1,000.00 | 1,300.00 |
| 8 | Parking Lot (Office & Building) | 4245 | Rft | 42,450.00 | 55,185.00 |
| 9 | Drainage System | 2258.5 | Rft | 51,945.50 | 67,529.15 |
| 10 | Road | 248010 | sqft | 2,232,090.00 | 2,901,717.00 |
| 11 | Gate | 1 | Rft | 30,000.00 | 39,000.00 |
| 12 | Design (L/S) | 1 | Unit | 100,000.00 | 130,000.00 |
| 13 | Substation & Electrical Works | 1 | L/S | 100,000.00 | 130,000.00 |
| 14 | Ramp (Jetty) | 8529 | sqft | 392,334.00 | 510,034.20 |
| | | | | | |
| **Total** | | | | **15,278,937.30** | **19,862,618.49** |

# Hlaing Inland Terminal and Logistics Co., Ltd

## Machinery To Be Imported

**Schedule (3)**

**(In Thousand)**

| Sr. No. | Item | A/C unit | U.P | Qty | Amount (US$) | Equ: MMK (1US$= 1,300 Ks) |
|---|---|---|---|---|---|---|
| 1 | Reach Stacker | Nos | 450,000 | 3 | 1,350.000 | 1,755,000.00 |
| 2 | Empty Handler | Nos | 380,000 | 3 | 1,140.000 | 1,482,000.00 |
| 3 | Forklift (3tons) | Nos | 25,000 | 4 | 100.000 | 130,000.00 |
| 4 | Forklift (5 tons) | Nos | 30,000 | 2 | 60.000 | 78,000.00 |
| 5 | Forklift (7 tons) | Nos | 70,000 | 2 | 140.000 | 182,000.00 |
| 6 | Office Car | Nos | 20,000 | 3 | 60.000 | 78,000.00 |
| 7 | Weight Bridge | Nos | 90,000 | 1 | 90.000 | 117,000.00 |
| 8 | Generator | Nos | 225,000 | 1 | 225.000 | 292,500.00 |
| 9 | Soil Pump | Nos | 231 | 10 | 2.308 | 3,000.00 |
| | | | | | | |
| **Total** | | | | | **3,167.308** | **4,117,500.00** |

